ဘုရားရှင်ဟောကြားတော်မူအပ်သော

ဒေသနာတော်ကို မှီငြမ်း၍

တရားအားမထုတ်မီ လေ့လာသင့်သော

# ဝိပဿနာဘူမိ

(ဝိပဿနာအခြေခံများ)





တစ်ဘဝသာသနာ - အရှင်ဃောသိတ

ဘုရားရှင်ဟောကြားတော်မူအပ်သော

ဒေသနာတော်ကို မှီငြမ်း၍

တရားအားမထုတ်မီ လေ့လာသင့်သော

# ဝိပဿနာဘူမိ

(ဝိပဿနာအခြေခံများ)

တစ်ဘဝသာသနာ-အရှင်ယောသိတ

သာသနာ-၂၅၅၇ ကောဇာ-၁၃၇၅ ခရစ်-၂၀၁၃




ရန်ကုန်မြို့၊ ကမ္ဘာအေး၊ သာသနာရေးဝန်ကြီးဌာန
သာသနာရေးဦးစီးဌာန၊ ကမ္ဘာအေးစာပုံနှိပ်တိုက်တွင်
ညွှန်ကြားရေးမှူး ဦးဝင်းထင်အောင်
မှတ်ပုံတင်အမှတ် (၀၃၈၄၃/၀၂၄၀၅)က
ပုံနှိပ်ထုတ်ဝေသည်။

# ဓမ္မဒါန



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

အမျိုးသားလွှတ်တော် ဥက္ကဋ္ဌ

ဦးခင်အောင်မြင့် ဇနီး ဒေါ်ခင်ပြုံးနှင့်

မိသားစု ကောင်းမှု။



(က)

## အခြေခံနိဒါန်း

မြန်မာနိုင်ငံတွင် ဆဋ္ဌသင်္ဂါယနာခေတ်၏ အရှေ့ပိုင်းနှင့် နောက်ပိုင်းကို ယှဉ်ကြည့်လျှင် မတူသည်တို့ကို တွေ့ရမည်ဖြစ်၏။ သင်္ဂါယနာ၏ အရှေ့ပိုင်းခေတ်က ပဋိပတ်အကျင့်ကို စိတ်ဝင်စားမှု နည်းခဲ့ကြသေးသည်။ နောက်ပိုင်းကျမှ လူတို့သည် လှုပ်လှုပ်ရွရွနှင့် ပဋိပတ်ဆိုတဲ့ ဝိပဿနာအလုပ်ကို စိတ်ဝင်စားလာကြသည်။

သင်္ဂါယနာ၏ နောက်ပိုင်းတွင် တစ်နိုင်ငံလုံး အတိုင်း အတာဖြင့် လှိုင်းလုံးကြီးလှိမ့်ဝင်လာသလို လှုပ်လှုပ်ရွရွဖြင့် ပဋိပတ်ကို အာရုံစူးစိုက်လာကြသည်။ ကိုယ့်နိုင်ငံတွင်းမှာသာမက အခြားသော နိုင်ငံတို့ကပါ ဤကိစ္စအတွက် မြန်မာနိုင်ငံသို့ လာကြရသည်။ ဤမျှအထိ မြန်မာနိုင်ငံက မျက်နှာပွင့်လင်းခဲ့ကြရ၏။ မဟာသတိပဋ္ဌာန်တရား ဟောကြားခဲ့ရာ အိန္ဒိယနိုင်ငံ၊ ကုရုတိုင်း၊ ကမ္မာသ နိဂုံးပမာ ဖြစ်တော့သည်။

ဘုရားရှင်ကိုယ်တော်မြတ်ကြီးက "မဟာသတိပဋ္ဌာန်သုတ်တော်ကြီးကို ဟောတော့မယ်" ဆိုတော့ ဟောမည့်နေရာကို ရွေးပါသေးသတဲ့။ ရွေးတဲ့အခါ ရေကောင်း၊ မြေကောင်း မိုးလေဝသ မှန်၍ အသီးအနှံတွေ ဖွံ့ဖွံ့ဖြိုးဖြိုး၊ အောင်အောင်မာမာ ထွက်တဲ့ အိန္ဒိယနိုင်ငံ၊ ကုရုတိုင်း၊ ကမ္မာသနိဂုံးကို ရွေးတော်မူပါသတဲ့။

အကြောင်းကတော့ အသီးအနှံဖွံ့ဖြိုးအောင်မာမှ အဆီဩဇာပြည့်၊ အဆီဩဇာပြည့်တဲ့ အစားအစာကို စားမှ ကျန်းမာ၊ ကျန်းမာမှ တရားထူးရလွယ်မည်။

ယခုအခါ မြန်မာပြည်သည်လည်း ရေမြေကောင်း၊ မိုးလေမှန်၊ သီးနှံတွေရသဖြင့် ကမ္ဘာ့သနိဂုံးပမာ ဖြစ်တော့သည်။ သတိပဋ္ဌာန်တရားတို့လည်း ပြန့်ပွားလာကြ၏။ လူတို့လည်း စိတ်ဝင်စားလာကြသည်။ ဝိမုတ္တိယုဂခေတ်သို့ တစ်ပတ်ပြန်၍ လည်လာသောကြောင့်လေလော။

**အခုဟာက ဝိမုတ္တိယုဂခေတ်ပဲ**

"ခေတ်" ဆိုတာ ခေတ္တဆိုတဲ့ ပါဠိက လာတာ၊ ခေတ္တဆိုတာက "အခိုက်အတန့် အချိန်တိုကလေး"ဟု အဓိပ္ပါယ်ရသည်။ အချိန်ကာလရှည်ကြီးတစ်ခုကို အချိန်တို အခိုက်အတန့်ကလေး ၅ ခု၊ ခေတ် ၅ ခေတ်ဖြင့် ပိုင်းခြားပါသတဲ့၊ တစ်ခေတ် တစ်ခေတ်တွင်လည်း နှစ်ပေါင်း (၅၀၀)ရှိသည်ဆို၏။ ထိုခေတ်တို့ကား -

၁။ ဝိမုတ္တိယုဂခေတ်၊ နှစ်ပေါင်း ၅၀၀၊
၂။ သမာဓိယုဂခေတ်၊ နှစ်ပေါင်း ၅၀၀၊
၃။ သီလယုဂခေတ်၊ နှစ်ပေါင်း ၅၀၀၊

၄။ သုတယုဂခေတ်၊ နှစ်ပေါင်း ၅၀၀၊
၅။ ဒါနယုဂခေတ်၊ နှစ်ပေါင်း ၅၀၀၊

**နှစ်ပေါင်း ၂၅၀၀**

ထိုထေရဂါထာအဋ္ဌကထာဒုတိယအုပ် စာမျက်နှာ ၃၆၈ လာအရ

ရှည်လျားသော အချိန်ကာလကြီးတစ်ခုကို ဤခေတ် (၅) ခေတ်တို့ဖြင့် ပိုင်းခြား၍ လည်ပတ်နေသည်ဆို၏။ ဘုရားပွင့်ချိန်မှ စပြီး နှစ်ပေါင်း (၅၀၀)အတွင်း ဝိမုတ္တိယုဂခေတ်ဖြစ်သောကြောင့် ချွန်မင်ဖိုလ်တရားထူးများ ဖြိုင်ဖြိုင်ရကြသည်။

ဒုတိယနှစ်ပေါင်း (၅၀၀)အတွင်း၌ကား၊ သမာဓိယုဂခေတ် ဖြစ်သောကြောင့် သမာဓိတည်ရုံမျှသာ ဖြစ်၏။

တတိယနှစ်ပေါင်း (၅၀၀)အတွင်း၌လည်း သီလယုဂ ခေတ် ဖြစ်သောကြောင့် သီလကိုသာ ဦးစားပေး၊ သီလစင်ကြယ် အောင် ထိန်းကြ၍ သီလမျှသာ ရှိကြ၏ဟု ဆိုလိုသည်။

စတုတ္ထနှစ်ပေါင်း (၅၀၀)အတွင်း၌လည်း သုတယုဂခေတ် ဖြစ်သောကြောင့် ဗဟုသုတ ကြွယ်ဝဖို့သာ ဦးစားပေးကြ၏။ ကျမ်းဂန်တတ်မြောက်ရေးအတွက်သာ အာရုံစိုက်ကြသည်။

ပဉ္စမနှစ်ပေါင်း (၅၀၀)အတွင်း၌မူ ဒါနယုဂခေတ်ဖြစ်သော ကြောင့် ဒါနပြုမှု အားသန်ကြ၏။ လှူကြတန်းကြ၊ ပေးကြကမ်းကြ များ၏။ ဘုရားတည် ကျောင်းဆောက်ပေါများသည်။

(ဃ)

ထိုမှလွန်သော် ဝိမုတ္တိယုဂခေတ်တွင်းသို့ ပြန်လှည့်ဝင်လာသည်ဟု ဆိုကြ၏။ သာသနာနှစ် (၂၅၀၀)၊ ကောဇာသက္ကရာဇ် (၁၃၁၈) ခုနှစ်ကစ၍ ဤဘက်တွင် ဝိမုတ္တိယုဂခေတ်သို့ ပြန်လည်ဆိုက်ရောက်လာပြီဟု ကြွေးကြော်ကြ၏။

ထို့ကြောင့် ဤခေတ်သည် ဈာန်မဂ်ဖိုလ်တရားထူးများ ဖြိုင်ဖြိုင်ရနိုင်သော ဝိမုတ္တိယုဂခေတ်ဖြစ်လေပြီ။ သို့ဖြစ်၍လည်း လူတို့သည် တရားထူးရရန် လှုပ်လှုပ်ရွရွ ကြိုးစားလာကြ၏။ ဝိပဿနာစကားကို များစွာ ပြောဆိုလာကြကုန်၏။ ဤသို့လျှင် ခေတ်နှင့်ညီစွာ အလုပ်လုပ်နိုင်ကြရန် ဘုရားရှင် ဟောကြားတော်မူသော ဒေသနာတော်ကို မှီငြမ်းပြု၍ အခြေခံလျက် “ဝိပဿနာဘူမိ” (ဝိပဿနာ၏အခြေခံ) လုပ်ငန်းစဉ်ကို တင်ပြလိုက်ရပါသည်။

စေ့စေ့ငငကြည့်ရှုကြ၍ ကျကျနန လေ့လာကြပြီးလျှင် အခြေခံ သိရှိနိုင်ကြပါစေသတည်း။ သိသည့်အတိုင်း ကျင့်ကြံနိုင်ကြပါစေသတည်း။ ကျင့်သည့်အတိုင်း ကိုယ်စီကိုယ်င တရားထူး ရနိုင်ကြပါစေသတည်း။

အခြေခံကောင်းကောင်းရ၍ အမြင့်မှန်ဘဝကို ရောက်ကြပါစေ၊ ယောင်ယောင်ဝါးဝါး မှောက်မှောက်မှားမှား အထင်အမြင်

အလွဲအမှားတို့ကို ဖယ်ရှားနိုင်ကြပါစေ၊ အနိစ္စကို နိစ္စထင်၊ ဒုက္ခကို သုခထင်၊ အနတ္တကို အတ္တထင်၊ အသုဘကို သုဘထင်၍ ပြောင်းပြန်ကြီး မြင်တတ်သော အလေ့ကိုလည်း ပြင်နိုင်ကြပါစေ။

အားလုံးပြင်နိုင်ကြ၍ အမှန်အတိုင်း ဖြစ်ကြပါစေသတည်း။

ဆရာတော် ဦးဃောသိတ
သာသနဓဇ သိရီပဝရ ဓမ္မာစရိယ
တစ်ဘဝ သာသနာ ကျမ်းပြု
မိုးကုတ်အဖွဲ့ချုပ်ကြီး၏ ကမ္မဋ္ဌာနာစရိယ
သံဃာ့ တက္ကသိုလ် ကျောင်းတိုက်
ရေကူး၊ ကမ္ဘာအေး၊ ရန်ကုန်။
ဖုန်း - ၆၆၃၄၆၉



# မာတိကာ

# မာတိကာ

## မာတိကာ

# မာတိကာ



မာတိကာပြီး၏။



နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

## ဝိပဿနာဘူမိ
## (ဝိပဿနာအခြေခံများ)

၁။ ဘုရား, တရား၊ သံဃာအား၊ ညွှတ်တွားပဏာမ။
၂။ ပရိယတ်, ပဋိပတ်၊ ဆရာမြတ်၊ ပျပ်ဝပ်ဂါရဝ။
၃။ ရှိခိုးပြီးကာ၊ ဤကျမ်းစာ၊ ဝမ်းသာရေးပါရ။
၄။ ဝိပဿနာဘူမိ၊ မူအပြည့်၊ လူသိများပါလှ။
၅။ သိစရာမှန်၊ အခြေခံ၊ ဧကန်ပြည့်လျှံဝ။
၆။ ဖတ်ကြ မှတ်ကြ၊ လေ့လာကြ၊ သိကြပထမ။
၇။ ကျင့်ကြပိုင်ပိုင်၊ ဖွဲ့ခိုင်ခိုင်၊ ရနိုင်နိဗ္ဗာန။

### အပြစ်ကင်းသူဖြစ်ရေး

"လောကုတ္တရာအကျိုး တိုးတက်ရာတိုးတက်ကြောင်း ပြုလုပ်သူများအဖို့ အပြစ်ကင်းစင်နေသူများ ဖြစ်ကြရမည်။ သာမန်၊ ကာယကံပြစ်၊ ဝစီကံပြစ်၊ မနောကံပြစ်များ ကင်းစင်နေကြရမည်။ အပြစ်များ မကင်းစင်လျှင် မိမိ၏ တိုးတက်ရေး ဘဝလမ်းခရီးတွင် ယင်းအပြစ်တို့က အဟန့်အတားပြုနေတတ်ကြသည်"ဟူ၍ ကျမ်းဂန်တို့အဆိုအရ ယုံကြည်ကြရပါသည်။

သာမန် ကာယကံပြစ်၊ ဝစီကံပြစ်၊ မနောကံပြစ်ကလေး များအတွက် အကယ်၍များ ကျူးလွန်မိလျှင်လည်း ကန်တော့ တောင်းပန်လိုက်ပါက ကျေပျောက်ရသော သဘာဝ အပြစ်ကင်း စင်သော ဘဝဖြစ်သွားရလေသည်။

ထို့ကြောင့် ရှေးရှေးကာလ လက်ထက်တို့ကပင် ရှေးဆရာ တော် ဘုရားကြီးများက "ဩကာသ ဩကာသ" အစချီသော ကန်တော့ခန်းကို စီမံထားတော်မူခဲ့ကြသည်။ ဗုဒ္ဓဘာသာဝင်တို့ အဖို့ လက်သုံးဖြစ်ကြ၏။ သုမင်္ဂလ၊ ဒုမင်္ဂလပွဲများတွင် အခွင့်ကြုံ တိုင်း ဘုရား၊ တရား၊ သံဃာများနှင့် မိဘ, ဘိုးဘွား, ဆရာသမား တို့အား ကန်တော့တတ်ကြသည်။

ယင်းကန်တော့ခန်းကို မိုးကုတ်ဆရာတော်ဘုရားကြီးက တရားအားထုတ်မည့်သူများနှင့် လိုက်လျောအောင် ထပ်မံပြင်ဆင် အနည်းငယ်ပြုပြင်ထား၏။ မိုးကုတ်ယောဂီများ တစ်ပြေးညီ တစ်မူ တည်း ဖြစ်စေရန် ယခုတင်ပြအပ်ပါသည်။

## ကန်တော့ခန်း

ဩကာသ၊ ဩကာသ၊ ဩကာသ၊ ကာယကံ၊ ဝစီကံ၊ မနောကံ၊ သဗ္ဗဒေါသ၊ ခပ်သိမ်းသော အပြစ်တို့ကို ပျောက်ပါစေ ခြင်း အကျိုးငှာ၊ ပထမ၊ ဒုတိယ၊ တတိယ၊ တစ်ကြိမ်၊ နှစ်ကြိမ်၊ သုံးကြိမ်မြောက်အောင်၊ ဘုရားရတနာ၊ တရားရတနာ၊ သံဃာ

ရတနာ၊ ရတနာမြတ်သုံးပါးတို့နှင့် မိဘဆရာသမားတို့အား ရိုသေမြတ်နိုး လက်စုံမိုး၍ ရှိခိုးပူဇော် ဖူးမြော်မာန်လျော့ ကန်တော့ပါ၏ အရှင်ဘုရား။

ကန်တော့ရသော ကောင်းမှုကံ စေတနာတို့ကြောင့် တပည့်တော်တို့ အားထုတ်ဆဲဖြစ်သော ဝိပဿနာဉာဏ်သည် လျင်မြန်စွာ မဂ်ဉာဏ်သို့ ကျေးဇူးပြု၍ နိဗ္ဗာန်သို့ မျက်မှောက်ပြုရပါလို၏ အရှင်ဘုရား . . . .။

## ဘုန်းကြီးကဆုပေး

ဘုရားရတနာ၊ တရားရတနာ၊ သံဃာရတနာ၊ ရတနာတော် မြတ်သုံးပါးနှင့် ဆရာသခင် ကျေးဇူးရှင်ဖြစ်တော်မူသော အဂ္ဂမဟာပဏ္ဍိတ၊ မိုးကုတ်ဆရာတော်ဘုရားကြီး၏ ဉာဏ်တော်အား ရည်မှန်း၍ ရှိခိုးပူဇော် ဖူးမြော်မာန်လျော့ ကန်တော့ရသော ပူဇဝန္ဒပဏာမစေတနာ၊ သဒ္ဓါ ပညာ ဝီရိယတို့ကြောင့် -

မိမိတို့ အလိုရှိအပ် တောင့်တအပ်သော မအိုမသေအမြဲနေသော နိဗ္ဗာန်သို့လည်းကောင်း၊ ဒုက္ခခပ်သိမ်း အေးငြိမ်းရာဖြစ်သော နိဗ္ဗာန်သို့လည်းကောင်း၊ တစ်ထောင့်ငါးရာ ကိလေသာတို့၏ ချုပ်ရာငြိမ်းရာ သိမ်းရာဖြစ်သော နိဗ္ဗာန်သို့လည်းကောင်း . . .

မိမိတို့ အားထုတ်ဆဲဖြစ်သော ဝိပဿနာဉာဏ်သည် လျှင်မြန်စွာ မဂ်ဉာဏ်သို့ ကျေးဇူးပြု၍ နိဗ္ဗာန်သို့ မျက်မှောက်ပြုလွယ် နိုင်ကြသည်ဖြစ်စေ . . .။

## ငါးပါးသီလ ဆောက်တည်လိုကြရာ၌ ငါးပါးသီလတောင်း

လူများ ။ ။ အဟံ ဘန္တေ တိသရဏေန သဟ ပဉ္စသီလံ ဓမ္မံ ယာစာမိ၊ အနုဂ္ဂဟံ ကတွာ သီလံ ဒေထ မေ ဘန္တေ။
ဒုတိယမ္ပိ အဟံ ဘန္တေ . . . .။
တတိယမ္ပိ အဟံ ဘန္တေ . . . .။

## ဘုန်းကြီး၏ သတိပေးစကား

ဘုန်းကြီး။ ။ ယ မဟံ ဝဒါမိ၊ တံ ဝဒေထ။

လူများ ။ ။ အာမ ဘန္တေ။

## ဘုရားရှိခိုးခန်း

ဘုန်းကြီး။ ။ နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

လူများ ။ ။ (ဘုန်းကြီးတိုင်ပေးသည့်အတိုင်း လိုက်ဆို၊ လေးစားဖွယ်ဖြစ်အောင် သုံးကြိမ်ဆို)

## သရဏဂုံဆောက်တည်ခန်း

ဘုန်းကြီး။ ။ ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ၊
ဓမ္မံ သရဏံ ဂစ္ဆာမိ၊
သံဃံ သရဏံ ဂစ္ဆာမိ၊
လူများ ။ ။ (ပုံတူလိုက်၍ ဆိုကြရန်)
ဘုန်းကြီး။ ။ ဒုတိယမ္ပိ ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ၊
ဒုတိယမ္ပိ ဓမ္မံ သရဏံ ဂစ္ဆာမိ၊
ဒုတိယမ္ပိ သံဃံ သရဏံ ဂစ္ဆာမိ၊
လူများ ။ ။ (ပုံတူလိုက်၍ ဆိုကြရန်)
ဘုန်းကြီး။ ။ တတိယမ္ပိ ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ၊
တတိယမ္ပိ ဓမ္မံ သရဏံ ဂစ္ဆာမိ၊
တတိယမ္ပိ သံဃံ သရဏံ ဂစ္ဆာမိ၊
လူများ ။ ။ (ပုံတူလိုက်၍ ဆိုကြရန်)
ဘုန်းကြီး။ ။ သရဏဂမနံ ပရိပုဏ္ဏံ။
လူများ ။ ။ အာမ ဘန္တေ။

## ငါးပါးသီလဆောက်တည်ခန်း

ဘုန်းကြီး။ ။ (၁) ပါဏာတိပါတာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။
(၂) အဒိန္နာဒါနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

(၃) ကာမေသု မိစ္ဆာစာရာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

(၄) မုသာဝါဒါ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

(၅) သုရာမေရယမဇ္ဇပ္ပမာဒဋ္ဌာနာ ဝေရမဏိ သိက္ခာပဒံ သမာဒိယာမိ။

လူများ ॥ ॥ (ဘုန်းကြီးကရှေ့က တစ်ပုဒ်တိုင်၍ ပေးပြီးတိုင်း လူများက နောက်ကတစ်ပုဒ်ချင်း လိုက်၍ဆို။ အမှန်မှာ မိမိကိုယ်တိုင်ဆို၍ ဆောက်တည်ရမည့် ကိစ္စကို မဆိုတတ်သဖြင့် ဘုန်းကြီးက တိုင်ပေးသည့် သဘော)

**ဓိုင်မြဲတင်းကျပ် အခိဋ္ဌာန်မြတ်အခန်း**

ဘုန်းကြီး॥ ॥ ဣဝိတံ စဇမာနောပိ သိက္ခာပဒါ ဟံ န စဇာမိ။

လူများ ॥ ॥ (ဘုန်းကြီးကပိုင်းဖြတ်၍ တိုင်ပေးသည့်အတိုင်း လိုက်ဆို။)

**ဆုတောင်းနှင့် အမျှဝေခန်း**

ဘုန်းကြီး॥ ॥ ဣဒံ မေ ပုညံ အာသဝက္ခယာဝဟံ ဟောတု။

လူများ ॥ ॥ (ဘုန်းကြီးတိုင်ပေးသည့်အတိုင်း လိုက်ဆို။)

ဘုန်းကြီး॥ ॥ ဣဒံ ပုညဘာဂံ သဗ္ဗသတ္တာနံ ဒေမ။

လူများ ॥ ॥ (ဘုန်းကြီးတိုင်ပေးသည့်အတိုင်း လိုက်ဆို။)

## သတိထားဖို့ မှာကြားနိုင်းအုပ်

**ဘုန်းကြီး**॥ ॥ တိသရဏေန သဟ ပဉ္စင်္ဂသီလံ သာဓုကံ ကတွာ အပ္ပမာဒေန သမ္ပာဒေထ॥

**လူများ** ॥ ॥ အာမ ဘန္တေ॥

**အဓိပ္ပာယ်များ ရှင်းလင်းပြချက်**

ကန်တော့ခန်းတွင် "ဩကာသ၊ ဩကာသ"ဟူ၍ ပါဠိစကားလုံးဖြင့် စတင်ထား၏။ ဤနေရာ၌ 'ဩကာသ'ပုဒ်၏ ဆိုလိုချက် အနက်မှာ 'အခွင့်'ဟူ၍ အဓိပ္ပာယ်ရသည်။ 'တောင်းပန်ကန်တော့ပါရစေ၊ အခွင့်ပေးတော်မူပါ၊ အခွင့်ပေးတော်မူပါ၊ အခွင့်ပေးတော်မူပါ'ဟု လေးစားဖွယ်ဖြစ်အောင် သုံးကြိမ်ဆိုထားသည်။

**ကာယကံ** = ကိုယ်ဖြင့် မှားယွင်း ပြုမိသည့်ကံ။

**ဝစီကံ** = နှုတ်ဖြင့် မှားယွင်း ပြောဆိုမိသည့်ကံ။

**မနောကံ** = စိတ်ဖြင့် မှားယွင်းစွာ ကြံစည်မိသည့်ကံ။

**သဗ္ဗဒေါသ**= အလုံးစုံသောအပြစ်၊ ခပ်သိမ်းသောအပြစ်။

"**ရတနာ**" ဆိုတာ စိတ်နှလုံးကို ရွှင်ပြုံးနှစ်သက်စေတတ်သောအရာကို ခေါ်သည်။ စိန်၊ ရွှေ၊ ရတနာ၊ ကျောက်မျက်ရတနာ၊ သားသမီးရတနာ၊ ဆင်၊ မြင်း၊ ကျွဲ၊ နွားရတနာစသည်တို့ ဖြစ်ကြ၏။

ထိုရတနာတို့တွင် ဘုရား၊ တရား၊ သံဃာသည်လည်း ရတနာဖြစ်၏။ အမြတ်ဆုံး ရတနာဖြစ်သည်။ ဤကန်တော့ခန်း

တွင် နှစ်ပိုင်းတွေ့ရမည် ဖြစ်၏။ ရှေ့ပိုင်းက ကန်တော့ခန်း နောက်ပိုင်းက ကန်တော့ရသည့်အတွက် ရလိုသော အကျိုးကို မျှော်ကိုးတောင့်တသည့် အခန်းတို့ဖြစ်သည်။

**တရားအားထုတ်ဆဲအခါ ဖြစ်တဲ့ဉာဏ်**

"တရားအားထုတ်ဆဲဖြစ်သော ဝိပဿနာဉာဏ်သည်" ဆိုတာ ရှေ့ပိုင်းက ဖြစ်ပေါ်ရသော လောကီဝိပဿနာဉာဏ်ကို ဆိုလို၏။ ယထာဘူတဉာဏ်၊ ပုဗ္ဗဘာဂမဂ်၊ လောကီမဂ္ဂင်ငါးပါးကို ပြောနေခြင်းဖြစ်သည်။

"မဂ်ဉာဏ်သို့ ကျေးဇူးပြု၍" ဆိုတာ "မဂ်ဉာဏ်အား ကျေးဇူးပြု၍" ဟု ဆိုလို၏။ "လောကီဝိပဿနာဉာဏ်မှ တစ်ဆင့် တက်၍ လောကုတ္တရာမဂ်ဉာဏ်သို့ ကူးပြောင်းပြီးလျှင်"ဟု ဆိုလိုသည်။

"နိဗ္ဗာန်သို့ မျက်မှောက်ပြုရပါလို၏" ဆိုတာ "နိဗ္ဗာန်ကို မြင်ရပါလို၏" (မျက်စိဖြင့် မြင်ရသလို) ဉာဏ်ဖြင့်မြင်ရပါလို၏"ဟု ဆုတောင်းထားသည်။

နိဗ္ဗာန်ကို မြင်နိုင်တာက လောကုတ္တရာမဂ်ဉာဏ်ဖြင့်သာ မြင်နိုင်၏။ လောကီဝိပဿနာဉာဏ်ဖြင့် မမြင်နိုင်၊ သို့ဖြစ်၍ "အခြေခံဖြစ်သော လောကီဝိပဿနာဉာဏ်မှ လောကုတ္တရာမဂ်ဉာဏ်သို့ တစ်ဆင့်တက်၍" ဟု ဆိုလိုသည်။

## ငါးပါးသီလအခန်းမှ အဓိပ္ပါယ်များ

ဘုန်းကြီးဘက်က ဆုပေးခန်းတွင် ကန်တော့သောအခန်းနှင့် လိုက်လျောအောင် ဆုပေးထားသည်ကို တွေ့ရမည်ဖြစ်၏။ အထူးရှင်းလင်းစရာမရှိ။ အဓိပ္ပာယ်ပေါ်လွင်ပါသည်။

ငါးပါးသီလဆောက်တည်ခန်း၌ သီလတောင်းခံပုံကို ပါဠိလိုဆို၍ တောင်းထား၏။ ပါဠိကို မလေ့လာရသေးသူတို့အတွက် အဓိပ္ပာယ်မသိနိုင်ပါ။ သို့ဖြစ်၍ အနက်ပေးကာ အဓိပ္ပာယ်ဖော်ပြပါအံ့။

ဘန္တေ၊ အရှင်မြတ်ဘုရား။ အဟံ၊ တပည့်တော်သည်။ တိသရဏေန၊ သရဏဂုံသုံးပါးနှင့်။ သဟ၊ အတူတကွ။ ပဉ္စသီလံ၊ ငါးပါးသီလဖြစ်သော။ ဓမ္မံ၊ လေးလေးမြတ်မြတ် ထိန်းသိမ်းအပ်သော ဂရုဓမ္မကို။ ယာစာမိ၊ တောင်းခံပါ၏။

ဘန္တေ၊ အရှင်မြတ်ဘုရား။ မေ၊ တပည့်တော်အား။ အနုဂ္ဂဟံ ကတွာ၊ ချီးမြှောက်မှုကိုပြု၍။ သီလံ၊ ငါးပါးသီလကို။ ဒေထ၊ ပေးတော်မူပါကုန်ဘုရား။

ဘန္တေ၊ အရှင်မြတ်ဘုရား။ ဒုတိယမ္ပိ၊ နှစ်ကြိမ်မြောက်လည်း။ အဟံ၊ တပည့်တော်သည်။ ပေ ။ ဘန္တေ၊ အရှင်မြတ်ဘုရား။ တတိယမ္ပိ၊ သုံးကြိမ်မြောက်လည်း။ အဟံ၊ တပည့်တော်သည်။ ပေ။

မှတ်ချက်။ ။ အမှန်ကတော့ သီလဆောက်တည်ပုံ၊ ဆောက်တည်နည်းကို နားမလည်၍ သင်ပြပေးပါ၊ ဆောက်တည်နည်းကို ပေးပါဟု တောင်းခံခြင်းမျိုးဖြစ်၏။ ဘုန်းကြီး၏ သန္တာန်မှ သီလတွေကို ခွဲဝေပေးပါဟု တောင်းခံသည်မဟုတ်ပါ။

**သီလမဆောက်တည်မီ ပြည့်စုံရမည့်အင်္ဂါ**

ဘုန်းကြီး၏ သတိပေးစကားတွင် -

**"ယံ့ မဟံ ဝဒါမိ၊ တံ ဝဒေထ"**

ယံ၊ အကြင်စကားကို။ အဟံ၊ ငါသည် (ဝါ) ငါက။ ဝဒါမိ၊ ရှေးကဆိုသွား၏။ တံ၊ ထိုငါဆိုသောစကားကို။ ဝဒေထ၊ လိုက်ဆိုကြကုန်။ အဓိပ္ပာယ်မှာ "ငါဆိုတဲ့အတိုင်း နောက်ကလိုက်ဆိုကြ" လို့ ဘုန်းကြီးက သတိပေးခြင်း ဖြစ်သည်။

ထို့နောက်တွင် ဘုန်းကြီးက ဘုရားရှိခိုးတိုင်ပေး၏။ "ငါးပါးသီလ မဆောက်တည်ကြမီ ဦးစွာပထမ ဘုရားရှိခိုးကြဦး" ဆိုသည့် သဘောဖြစ်သည်။

နမော တဿ ဘဂဝတော အရဟတော သမ္မာ သမ္ဗုဒ္ဓဿ။

အရဟတော၊ ပူဇော်အထူးကို ခံယူတော်မူထိုက်ထသော။ သမ္မာသမ္ဗုဒ္ဓဿ၊ အလုံးစုံသောတရားတို့ကို မဖောက်မပြန် အမှန်ကိုယ်တော်တိုင် သိတော်မူထသော။ တဿဘဂဝတော၊ ထိုမြတ်စွာဘုရားအား။ နမော၊ ရှိခိုးပါ၏။

ထို့နောက် သီလတောင်းခံစဉ်ကနည်းတူ "သရဏဂုံသုံးပါးနှင့်တကွ"ဟု တောင်းခံခဲ့သည့်အတိုင်း "သရဏဂုံယူတတ်ရန် တိုင်ပေးပြန်၏။

**ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ ။** ။ ဗုဒ္ဓံ၊ မြတ်စွာဘုရားကို။ သရဏံ၊ ကိုးကွယ်ရာဟူ၍။ ဂစ္ဆာမိ၊ စိတ်၌ မြဲစွာ သိမှတ်ပါ၏။

**ဓမ္မံ သရဏံ ဂစ္ဆာမိ ။** ။ ဓမ္မံ၊ တရားတော်မြတ်ကို။ သရဏံ၊ ကိုးကွယ်ရာဟူ၍။ ဂစ္ဆာမိ၊ စိတ်၌ မြဲစွာ သိမှတ်ပါ၏။

**သံဃံ သရဏံ ဂစ္ဆာမိ။** ။ သံဃံ၊ သံဃာတော်မြတ်ကို။ သရဏံ၊ ကိုးကွယ်ရာဟူ၍။ ဂစ္ဆာမိ၊ စိတ်၌မြဲစွာ သိမှတ်ပါ၏။

ဒုတိယမ္ပိ၊ နှစ်ကြိမ်မြောက်လည်း။ တတိယမ္ပိ၊ သုံးကြိမ်မြောက်လည်း။ ဤမျှသာ ထူးတော့သည်။ ဆိုခဲ့ပြီးသည်နှင့် အနက် အဓိပ္ပါယ်တူပြီ။

သရဏဂုံသုံးပါး ဆောက်တည်ပြီးသောအခါ ဘုန်းကြီးက "သရဏ ဂမနံ ပရိပုဏ္ဏံ"ဟု ဆို၏။ သရဏ ဂမနံ၊ သရဏဂုံသုံးပါးသည်။ ပရိပုဏ္ဏံ၊ သင်တို့သန္တာန်မှာ ပြည့်စုံပြီဟု ဆိုလို၏။ ထိုအခါ လူများက "အာမ ဘန္တေ၊ မှန်ပါဘုရား" ဟု ဝန်ခံကြသည်။

## ငါးပါးသီလဆောက်တည်ခန်းမှ အစိပ္ပာယ်များ

၁။ ပါဏာတိပါတာ၊ သူတစ်ပါးအသက်ကို သတ်ဖြတ်ခြင်းမှ။ ဝေရမဏိသိက္ခာပဒံ၊ ရှောင်ကြဉ်ရသော သိက္ခာပုဒ်ကို။ သမာဒိယာမိ၊ ကောင်းစွာဆောက်တည်ပါ၏။

(အသေးအမွှား ပိုးရွ၊ ခြပုန်း၊ မှက်၊ ခြင်၊ သန်းတို့မှ အစပြု၍ သူတစ်ပါးအသက်ကို မသတ်မိအောင် စောင့်စည်းပါမည်ဟု ဆိုလို သည်)

၂။ အဒိန္နာဒါနာ (အဒိန္န + အာဒါနာ)၊ ပိုင်ရှင်မပေးအပ်သော သူတစ်ပါးပစ္စည်းကို ခိုးယူခြင်းမှ။ ဝေရမဏိသိက္ခာပဒံ၊ ရှောင်ကြဉ် ရသော သိက္ခာပုဒ်ကို။ သမာဒိယာမိ၊ ကောင်းစွာ ဆောက်တည် ပါ၏။

၃။ ကာမေသု၊ ကာမဂုဏ်ကိစ္စတို့၌။ မိစ္ဆာစာရာ၊ စည်းကမ်း ကို ကျော်လွန်၍ မှားမှားယွင်းယွင်းပြုကျင့်ခြင်းမှ။ ဝေရမဏိ သိက္ခာ ပဒံ၊ ရှောင်ကြဉ်ရသော သိက္ခာပုဒ်ကို။ သမာဒိယာမိ၊ ကောင်းစွာ ဆောက်တည်ပါ၏။

၄။ မုသာဝါဒါ၊ မဟုတ်မမှန် လုပ်ကြံပြောဆိုခြင်းမှ။ ဝေရမဏိ သိက္ခာပဒံ. ရှောင်ကြဉ်ရသော သိက္ခာပုဒ်ကို။ သမာဒိယာမိ၊ ကောင်းစွာဆောက်တည်ပါ၏။

၅။ သုရာမေရယ မဇ္ဇပမာဒဋ္ဌာနာ၊ မူးယစ်စေတတ်၍ မေ့လျော့ခြင်း၏ အကြောင်းရင်းဖြစ်သော သေရည်သေရက်တို့ကို သောက်စားခြင်းမှ။ ဝေရမဏိသိက္ခာပဒံ၊ ရှောင်ကြဉ်ရသော သိက္ခာပုဒ်ကို။ သမာဒိယာမိ၊ ကောင်းစွာဆောက်တည်ပါ၏။

**နိုင်မြဲတင်းကြပ် အစိဋ္ဌာန်မြဲတ်အခန်း၌**

**ဇီဝိတံ စဇမာနောပိ သိက္ခာပဒါ ဟံ နစဇာမိ။**

ဇီဝိတံ၊ လွန်စွာစုံမက် အသက်သမုတ် ရှင်သန်နေသော နာမ်နှင့်ရုပ်ကို။ စဇမာနောပိ၊ အကြပ်အတည်းနှင့် ကြုံတွေ့ရ၍ စွန့်လွှတ်ရသော်လည်း။ သိက္ခာပဒံ၊ ဆောက်တည်ထားအပ်သော သိက္ခာပုဒ်ကို။ အဟံ၊ အကျွန်ုပ်သည်။ နစဇာမိ၊ မစွန့်လွှတ် မချိုးဖျက်ပါအံ့။

(အသက်ဘေးနှင့် ကြုံတွေ့ရင်ဆိုင်ရသော်လည်း ကျင့်ဝတ် သိက္ခာပုဒ်ကိုတော့ မဖျက်ပါ။ အသက်ကိုသာ အသေခံအံ့ ဟု ဆိုလိုသည်)

ယဒိပိ မေ အန္တဂုဏံ၊
နိက္ခမိတ္វာ ဗဟိ စရေ။
နေဝ ဘိန္ဒေယျံ အာဇီဝံ၊
စဇမာနောပိ ဇီဝိတံ။

(ဝိသုဒ္ဓိမဂ် - ၄၀)

အဓိပ္ပာယ်မှာ "ကျွန်ုပ်၏ အရူတွေ အခွေ, အခွေပြင်ဘက် ထွက်၍ ကုန်ပစေ၊ လွန်စွာစုံမက် ကျွန်ုပ်၏ အသက်ကိုပင် စွန့်ရပစေ အာဇီဝပါရိသုဒ္ဓိသီလကိုတော့ မချိုးဖောက်နိုင်ပါ"

အရှင်သာရိပုတ္တရာ၏ ခိုင်မြဲတင်းကြပ်၊ တိကျသော အဓိဋ္ဌာန်မြတ် စကားတော်ဖြစ်ပေသည်။ ထိုစကားရပ်မှ (စဇမာနောပိ ဇီဝိတံ) အပိုဒ်ကို ယူပြီးလျှင် ထိုအပိုဒ်ကို နည်းမှီ၍ ဤဩဆရာတော် ဘုရားကြီးက စီစဉ်ထားခြင်းဖြစ်၏။ ကောင်းမြတ်သော အဓိဋ္ဌာန်ချက်ပင် ဖြစ်ပေသည်။

**ဆုတောင်းနှင့်အမျှဝေခန်းတွင်**

ဆုတောင်းခန်း၌ "မေ၊ အကျွန်ုပ်၏။ ဣဒံ ပုညံ၊ ဤကောင်းမှုသည်။ အာသဝက္ခယာ ဝဟံ (အာသဝက္ခယံ+အာဝဟံ) အာသဝက္ခယံ၊ အာသဝတရားတို့၏ ကုန်ရာနိဗ္ဗာန်သို့။ အာဝဟံ၊ မရောက်ရောက်အောင် ရွက်ဆောင်နိုင်သည်။ ဟောတု၊ ဖြစ်ပါစေသတည်း။"

အမျှဝေခန်း၌ "ဣဒံ ပုညဘာဂံ၊ ဤကောင်းမှု၏ အဖို့ဘာဂကို။ သဗ္ဗသတ္တာနံ၊ အလုံးစုံသော သတ္တဝါတို့အား။ ဒေမ၊ အမျှပေးဝေကြပါကုန်၏။"

ဤစာပိုဒ်၌ "ဣမံ ပုညဘာဂံ"ဟု ဆိုလျှင် ပို၍အင်အားရှိ၏။ ပို၍တောင့်တင်းပါ၏။ သို့သော်လည်း (ဣမဿိဒ မံသိသု

နပုံသကေ)ဟူသော ကစ္စည်းသုတ်အရ ဒုတိယာ အံဝိဘတ်ဖြင့်လည်း "ဣဒံ"ဟူ၍ ရှိနိုင်ပါသည်။ သို့ဖြစ်၍ မိုးကုတ်ဆရာတော်ဘုရားကြီး၏ နှုတ်တော်ထွက် (မူ)ကို မဖျက်လိုက်တော့ဘဲ "ဣဒံ" ဟုဖော် ထားလိုက်ပါသည်။

သတိထားဖို့ မှာကြားနိဂုံးအုပ်အခန်းတွင် "တိသရဏေန၊ သရဏဂုံသုံးပါးနှင့်။ သဟ၊ အတူတကွ။ ပဉ္စင်္ဂသီလံ၊ အင်္ဂါငါးပါးရှိသော သီလကို။ သာဓုကံ၊ ကောင်းမွန်စွာ။ ကတွာ၊ မကျိုးမပေါက်အောင် ဆောက်တည်မှုကိုပြု၍။ အပ္ပမာဒေန၊ မမေ့မလျော့သောသတိတရားဖြင့်။ သမ္ပာဒေထ၊ ပြည့်စုံစေကြကုန်လော။"

ထိုအခါ လူများက "အာမ ဘန္တေ၊ မှန်ပါဘုရား" ဟူသော ဝန်ခံကတိစကားဖြင့် နိဂုံးသတ်လိုက်ကြပါသည်။

**ရှစ်ပါးသီလ ဆောက်တည်လိုကြရာ၌**
**ရှစ်ပါးသီလတောင်း**

**လူများ** ။ ။ အဟံ ဘန္တေ တိသရဏေန သဟ အဋ္ဌင်္ဂ သမန္နာဂတံ ဥပေါသထသီလံ ဓမ္မံ ယာစာမိ၊ အနုဂ္ဂဟံ ကတွာ သီလံ ဒေထ မေ ဘန္တေ။
ဒုတိယမ္ပိ အဟံ ဘန္တေ . . . ။
တတိယမ္ပိ အဟံ ဘန္တေ . . . ။

ဘုန်းကြီး။ ။ (ထို့နောက် ဘုန်းကြီး၏ သတိပေးစကား၊ ဘုရားရှိခိုးပုံ၊ သရဏဂုံဆောက်တည်ခန်းတို့ အားလုံး အတူတူဖြစ်သည်။)

**ရှစ်ပါးသီလ ဆောက်တည်ခန်း**

ဘုန်းကြီး။ ။ (၁) ပါဏာတိပါတာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

(၂) အဒိန္နာဒါနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

(၃) အဗြဟ္မစရိယာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

(၄) မုသာဝါဒါ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

(၅) သုရာမေရယ မဇ္ဇပ္ပမာဒဋ္ဌာနာ ဝေရမဏိသိက္ခာပဒံ သမာ ဒိယာမိ။

(၆) ဝိကာလ ဘောဇနာ ဝေရမဏိ သိက္ခာပဒံ သမာ ဒိယာမိ။

(၇) နစ္စ ဂီတ ဝါဒိတ ဝိသူကဒဿန မာလာ ဂန္ဓ ဝိလေပန ဓာရဏ မဏ္ဍန ဝိဘူသနဋ္ဌာနာ ဝေရမဏိ သိက္ခာပဒံ သမာဒိယာမိ။

(၈) ဥစ္စာသယန မဟာသယနာ ဝေရမဏီ သိက္ခာ
ပဒံ သမာဒိယာမိ။

**လူများ** ။ ။ (ဘုန်းကြီးက ပိုင်းဖြတ်၍ တိုင်ပေးသည့်အတိုင်း နောက်ကလိုက်ဆို)

**ဘုန်းကြီး**။ ။ ဇီဝိတံ စဇမာနောပိ သိက္ခာပဒါဟံ နစဇာမိ။

**လူများ** ။ ။ (ဘုန်းကြီးတိုင်ပေးသည့်အတိုင်း လိုက်ဆို။)

**ဘုန်းကြီး**။ ။ ဣဒံ မေ ပုညံ အာသဝက္ခယာ ဝဟံ ဟောတု။

**လူများ** ။ ။ (ဘုန်းကြီးတိုင်ပေးသည့်အတိုင်း လိုက်ဆို။)

**ဘုန်းကြီး**။ ။ ဣဒံ ပုညဘာဂံ သဗ္ဗသတ္တာနံ ဒေမ။

**လူများ** ။ ။ (ဘုန်းကြီးတိုင်ပေးသည့်အတိုင်း လိုက်ဆို။)

**ဘုန်းကြီး**။ ။ တိသရဏေန သဟ အဋ္ဌင်္ဂသီလံ သာဓုကံ ကတွာ အပ္ပမာဒေန သမ္ပာဒေထ။

**လူများ** ။ ။ အာမ ဘန္တေ။

## အဓိပ္ပါယ်များ ရှင်းလင်းချက်

အချို့သိက္ခာပုဒ်များ၏ အနက်အဓိပ္ပာယ်သည် ငါးပါးသီလတုန်းက ပေးခဲ့သည့်အနက်နှင့် အတူတူဖြစ်၏။ ဤအခန်း၌ မတူရာကိုသာ ကွက်၍ အနက်ရေးမည်။

သီလတောင်းခန်း၌ "အဋ္ဌင်္ဂသမန္နာဂတံ၊ အင်္ဂါရှစ်ပါးနှင့် ပြည့်စုံသော။ ဥပေါသထသီလံ၊ ဥပုသ်သီလဖြစ်သော။ ဓမ္မံ၊ တရားတော်မြတ်ကို။ ယာစာမိ၊ တောင်းခံပါ၏" ဤမျှသာထူးသည်။

သိက္ခာပုဒ်ရှစ်ပါးတို့တွင် (၃)အဗြဟ္မစရိယာ၊ မမြတ်သော မေထုန်အကျင့်မှ။ ဝေရမဏိသိက္ခာပဒံ၊ ရှောင်ကြဉ်ရသော သိက္ခာပုဒ်ကို။ သမာဒိယာမိ၊ ကောင်းစွာဆောက်တည်ပါ၏။

(၆) ဝိကာလ ဘောဇနာ၊ နေလွဲ ညစာစားသောက်ခြင်းမှ၊ ဝေရမဏိသိက္ခာပဒံ၊ ကို။ သမာဒိယာမိ၊ ပါ၏။

(၇) နစ္စဂီတ ဝါဒိတ ဝိသူကဒဿန မာလာဂန္ဓ ဝိလေပန ဓာရဏ မဏ္ဍန ဝိဘူသနဋ္ဌာနာ၊ ကိုယ်တိုင်ကခြင်း, သူတစ်ပါးကို အကခိုင်းခြင်း, ကိုယ်တိုင်သီဆိုခြင်း, သူတစ်ပါးကို အဆိုခိုင်းခြင်း, ကိုယ်တိုင်တီးမှုတ်ခြင်း, သူတစ်ပါးကို တီးမှုတ်ခိုင်းခြင်း, ဘုရားအဆုံးမတော်၏ ဆန့်ကျင်ဘက်စိုပမာ ဖီလာဖြစ်သော ကြည့်ရှုနားထောင်ခြင်း, ပန်းပန်ခြင်း, နံ့သာပျစ်တို့ဖြင့် နိမ့်ရာအရပ်၌ ပြည့်ဖြိုးအောင် ဖို့သိပ်ခြင်း, အရောင်တင်ဆေး, ရေမွှေး, နံ့သာဆီ, မျက်နှာချေ, ပေါင်ဒါမှုန့်တို့ကို လိမ်းကျံခြယ်လှယ်ခြင်းမှ။ ဝေရမဏိသိက္ခာပဒံ၊ ကို။ သမာဒိယာမိ၊ ပါ၏။

**မှတ်ချက်** ။ ။ ငါးပါးသီလစောင့်ထိန်းသူသည် ကိုယ့်အိမ်ထောင်၊ ကိုယ့်ဇနီးမယား၊ ကိုယ့်ခင်ပွန်းနှင့် နေနိုင်၏။ ဤရှစ်ပါး

သီလ စောင့်ထိန်းသူကား ကိုယ့်အိမ်ထောင်၊ ကိုယ့်ဇနီးမယား၊ ကိုယ့်ခင်ပွန်းနှင့်ပင် ရှောင်ကြဉ်ရသည်။

**ဘုရားဖြစ်တော်မူခါစ**

သိဒ္ဓတ္ထမင်းသားသည် ဘုရားဖြစ်အောင် ကျင့်ကြံလို၍ တိုင်းပြည်နှင့် နန်းတော်ကြီးကို ထားခဲ့ပြီးလျှင် တောထွက်လာခဲ့၏။ တောထဲတွင် ဒုက္ကရစရိယာ (၆)နှစ်ကြာအောင်ပင် ကျင့်ကြံ၍ ပြီးခဲ့ပြီ။ သို့သော် တရားမရ၍ လမ်းစဉ်ပြောင်းပြီး ကျင့်ခဲ့ရာ မဟာသက္ကရာဇ် ၁၀၃ ခုနှစ်၊ ကဆုန်လပြည့်နေ့သို့ ရောက်လာ၏။

ဥရုဝေလာတောအုပ်အတွင်း နေရဉ္စရာမြစ်၏ ကမ်းနားမဟာဗောဓိညောင်ပင်ကြီးအောက်တွင် တင်ပလ္လင်ခွေလျက် ရှိလေပြီ။ စူးစူးစိုက်စိုက် အချိန်ပြည့် တရားနှလုံးသွင်းလျက်ရှိရာ ကဆုန်လပြည့်နေ့ နောက်ဆုံးပိုင်းအချိန်တွင် သဗ္ဗညုတ ဉာဏ်တော်ကြီးကို ရ၍ "သမ္မာသမ္ဗုဒ္ဓ၊ သုံးလောကထွတ်ထားဘုရား" အဖြစ်သို့ ရောက်တော်မူခဲ့သည်။

**ဝိနည်းမဟာဝါ ပါဠိတော်**

**(မဟာခန္ဓက၊ ဗောဓိကထာ)**

တေန ခေါ ပန သမယေန ဗုဒ္ဓေါ ဘဂဝါ ဥရုဝေလာယံ ဝိဟရတိ နဇ္ဇာ နေရဉ္စရာယ တီရေ ဗောဓိရုက္ခမူလေ ပဌမာဘိ

သမ္ဗုဒ္ဓေါ၊ အထခေါ ဘဂဝါ ဗောဓိရုက္ခမူလေ သတ္တာဟံ ဧကပလ္လင်္ကေန နိသီဒိ ဝိမုတ္တိသုခပဋိသံဝေဒီ။

အထခေါ ဘဂဝါ ရတ္တိယာ ပဌမံ ယာမံ ပဋိစ္စသမုပ္ပါဒံ အနုလောမ ပဋိလောမံ မနသာကာသိ -

" အဝိဇ္ဇာပစ္စယာ သင်္ခါရာ။ ပေ။

ဒုက္ခက္ခန္ဓဿ သမုဒယော ဟောတိ။

အဝိဇ္ဇာယတွေဝ အသေသဝိရာဂ နိရောဓာ သင်္ခါရ

နိရောဓော။ ပေ။

ဒုက္ခက္ခန္ဓဿ နိရောဓော ဟောတီ" တိ။

**မြန်မာဘာသာပြန်**

ဘုရားဖြစ်တော်မူပြီးခါစ ထိုအခါ၌ အလုံးစုံသော တရားတို့ကို သိတော်မူသော မြတ်စွာဘုရားသည် ဥရုဝေလာ တောအုပ်အတွင်း စိမ်းညိုပြာလွင် တသွင်သွင်စီးဆင်းနေသော နေရဥ္စရာမြစ်၏ ကမ်းနား မဟာဗောဓိညောင်ပင်ကြီးအောက်တွင် သီတင်းသုံးတော်မူခိုက် ဖြစ်သည်။

ထိုအခါ မြတ်စွာဘုရားသည် ပထမယံ ညဦးပိုင်း ကာလပတ်လုံး ပဋိစ္စသမုပ္ပါဒ်ကို အနုလောမ + ပဋိလောမ (အနုလုံ+ပဋိလုံ) (အလျော်+ဆန့်ကျင်ဘက်) နှလုံးသွင်း ဆင်ခြင်တော်မူ၏။ အဘယ်သို့ နှလုံးသွင်း ဆင်ခြင်တော်မူသနည်း -

"အဝိဇ္ဇာကြောင့် သင်္ခါရဖြစ်ရ။ ပေ။

ဒုက္ခအစုကြီး ဖြစ်ပေါ်နေမှု ထင်ရှား၏။

အဝိဇ္ဇာ၏ အရဟတ္တမဂ်ဖြင့် အကြွင်းမဲ့ချုပ်ခြင်းကြောင့် သင်္ခါရ ချုပ်ရ။ ပေ။

ဒုက္ခအစုကြီး ချုပ်ပျောက်နေရခြင်းဖြစ်၏" ဟူ၍ (နှလုံးသွင်း ဆင်ခြင်တော်မူသည်)

မဇ္ဈိမယံ ညဉ့်လယ်ပိုင်းကာလပတ်လုံးလည်း ဤ ပဋိစ္စသမုပ္ပါဒ်ကိုပင် အနုလုံ+ ပဋိလုံ နှလုံးသွင်း ဆင်ခြင်တော်မူနေ၏။

ပစ္ဆိမယံ ညဉ့်နောက်ဆုံးပိုင်း ကာလပတ်လုံးလည်း ဤ ပဋိစ္စသမုပ္ပါဒ်ကိုပင် အနုလုံ+ ပဋိလုံ နှလုံးသွင်း ဆင်ခြင်တော်မူနေ၏။

ဤပဋိစ္စသမုပ္ပါဒ် ဒေသနာတော်သည် ဝိပဿနာစခန်းအတွက် တက်လှမ်းဖို့ရန် အခြေခံဖြစ်သည်။ "ဝိပဿနာ ဘူမိ"ဟု ဆိုရ၏။

**ပဋိစ္စသမုပ္ပါဒ် ဒေသနာတော်**
**(အနုလောမ+အကျော်ဖြစ်သောပါဠိ)**

အဝိဇ္ဇာပစ္စယာ သင်္ခါရာ၊ သင်္ခါရ ပစ္စယာ ဝိညာဏံ၊
ဝိညာဏပစ္စယာ နာမရူပံ၊ နာမရူပပစ္စယာ သဠာယတနံ။
သဠာယတနပစ္စယာ ဖဿော၊ ဖဿပစ္စယာ ဝေဒနာ၊

၂၉၂၄၂

ဝေဒနာပစ္စယာ တဏှာ၊ တဏှာပစ္စယာ ဥပါဒါနံ။

ဥပါဒါနပစ္စယာ ဘဝေါ၊ ဘဝပစ္စယာ ဇာတိ၊

ဇာတိပစ္စယာ ဇရာမရဏံ၊ သောကပရိဒေဝ ဒုက္ခ-ဒေါမနဿုပါယာသာ သမ္ဘဝန္တိ၊ ဧဝမေတဿ ကေဝလဿ ဒုက္ခက္ခန္ဓဿ သမုဒယော ဟောတိ။ ။

## (ပဋိလောမ=ဆန့်ကျင်ဘက်ဖြစ်သော ပါဠိ)

အဝိဇ္ဇာယတွေဝ အသေသ ဝိရာဂနိရောဓာ သင်္ခါရ နိရောဓော၊ သင်္ခါရနိရောဓာ ဝိညာဏနိရောဓော၊ ဝိညာဏ နိရောဓာ နာမရူပနိရောဓော၊ နာမရူပနိရောဓာ သဠာယတန နိရောဓော၊ သဠာယတနနိရောဓာ ဖဿနိရောဓော၊ ဖဿနိရောဓာ ဝေဒနာ နိရောဓော၊ ဝေဒနာနိရောဓာ တဏှာနိရောဓော၊ တဏှာနိရောဓာ ဥပါဒါနနိရောဓော၊ ဥပါဒါန နိရောဓာ ဘဝနိရောဓော၊ ဘဝနိရောဓာ ဇာတိနိရောဓော၊ ဇာတိနိရောဓာ ဇရာမရဏံ၊ သောက-ပရိဒေဝ ဒုက္ခ ဒေါမနဿ ုပါယာသာ နိရုဇ္ဈန္တိ၊ ဧဝမေတဿ ကေဝလဿ ဒုက္ခက္ခန္ဓဿ နိရောဓော ဟောတိ။

## အနုလောမပါဠိ၏ အနက်များ

အဝိဇ္ဇာပစ္စယာ-အဝိဇ္ဇာကြောင့်၊ သင်္ခါရာ-သင်္ခါရတရား တို့သည်၊ သမ္ဘဝန္တိ-ဖြစ်ကြရကုန်၏။ သင်္ခါရပစ္စယာ-သင်္ခါရတရား ကြောင့်၊ ဝိညာဏံ-ဝိညာဏ်သည်၊ သမ္ဘဝတိ-ဖြစ်ရ၏။ ပေ ။

ဇာတိပစ္စယာ-ဇာတိကြောင့်၊ ဇရာမရဏံ-ဇရာမရဏ လည်းကောင်း၊ သောကပရိဒေဝ ဒုက္ခဒေါမနဿု ပါယာသာ-(ဒေါမနဿ+ဥပါယာသာ)သောက-ပရိဒေဝ - ဒုက္ခ - ဒေါမနဿ-ဥပါယာသတို့လည်းကောင်း၊ (ဣတိ-ဤသို့၊ ဣမေ-ဤတရားတို့သည်) သမ္ဘဝန္တိ-ဖြစ်ကြရကုန်၏။

ဧဝမေတဿ-ကို (ဧဝံ+ဧတဿ) ဟု ပုဒ်ခွဲပါ။

ဧဝံ-ဤသို့လျှင်၊ ကေဝလဿ-ချမ်းသာသုခမဖက် သက်သက်မျှသာဖြစ်သော၊ ဧတဿဒုက္ခက္ခန္ဓဿ ဤဒုက္ခ အစုကြီး၏၊ သမုဒယော-ဖြစ်ပေါ်နေခြင်းသည်၊ ဟောတိ-ထင်ရှား တော့၏။

**မှတ်ချက်။** ။အလယ်ပိုင်း၌ အနက်ပေးမှုကို မြှုပ်၍ ထားခဲ့သည်။ အစပိုင်း အဆုံးပိုင်း၌ အနက်ပေးပုံကို နည်းမှီ၍ ဖော်တတ်လောက်ပါပြီ။

**ပဋိစ္စသမုပ္ပါဒ် အနုလောမပါဠိ၏ မြန်မာပြန်သက်သက်ကား**

၁။ အဝိဇ္ဇာကြောင့် သင်္ခါရဖြစ်ရ၊

၂။ သင်္ခါရကြောင့် ဝိညာဏ်ဖြစ်ရ၊

၃။ ဝိညာဏ်ကြောင့် နာမ်ရုပ်ဖြစ်ရ၊

၄။ နာမ်ရုပ်ကြောင့် သဠာယတနဖြစ်ရ၊

၅။ သဠာယတနကြောင့် ဖဿဖြစ်ရ၊

၆။ ဖဿကြောင့် ဝေဒနာဖြစ်ရ၊

၇။ ဝေဒနာကြောင့် တဏှာဖြစ်ရ၊

၈။ တဏှာကြောင့် ဥပါဒါန်ဖြစ်ရ၊

၉။ ဥပါဒါန်ကြောင့် ဘဝဖြစ်ရ၊

၁၀။ ဘဝကြောင့် ဇာတိဖြစ်ရ၊

၁၁။ ဇာတိကြောင့် ဇရာမရဏဖြစ်ရ၊

သောက - ပရိဒေဝ - ဒုက္ခ

ဒေါမနဿ - ဥပါယာသတို့လည်းဖြစ်ရ၏။ ဤသို့လျှင် ချမ်းသာသုခမဖက် သက်သက်မျှဖြစ်သော ဒုက္ခအစုအဝေးကြီး ဖြစ်ပေါ်နေရသည်။

**ပဋိလောမ ပါဠိ၏အနက်များ**

**(အဝိဇ္ဇာယတွေဝ–ကို (အဝိဇ္ဇာယ + တု + ဧဝ)ဟု ပုဒ်ခွဲပါ)**

အဝိဇ္ဇာယတွေဝ-အဝိဇ္ဇာ၏ သာလျှင်၊ အသေသဝိရာဂ နိရောဓာ-အရဟတ္တမဂ်ဖြင့် အကြွင်းမဲ့ချုပ်ခြင်းကြောင့်၊ သင်္ခါရ နိရောဓော-သင်္ခါရတရားတို့၏ ချုပ်ရခြင်းသည်၊ (ဟောတိ-ဖြစ်၏)။ သင်္ခါရနိရောဓာ - သင်္ခါရတရားတို့၏ ချုပ်ခြင်းကြောင့်၊ ဝိညာဏ နိရောဓော-ဝိညာဏ်၏ ချုပ်ရခြင်းသည် (ဟောတိ-ဖြစ်၏)။ပေ။

ဇာတိနိရောဓာ-ဇာတိ၏ချုပ်ခြင်းကြောင့်၊ ဇရာမရဏံ-ဇရာမရဏလည်းကောင်း၊ သောကပရိဒေဝ ဒုက္ခဒေါမနဿု

ပါယာသာ) (ဒေါမနဿ+ဥပါယာသာ) - သောက - ပရိဒေဝ-ဒုက္ခ - ဒေါမနဿ၊ ဥပါယာသတို့လည်းကောင်း၊

(ဣတိ - ဤသို့၊ ဧတဿ - ဤတရားတို့သည်)၊ နိရုဇ္ဈန္တိ-ချုပ်ကြရကုန်၏။

(ဧဝ မေတဿ-ကို (ဧဝံ + ဧတဿ) ဟုခွဲပါ။)

ဧဝံ - ဤသို့ဆိုလျှင်၊ ကေဝလဿ - ချမ်းသာသုခမဖက် သက်သက်မျှသာဖြစ်သော၊ ဧတဿ ဒုက္ခက္ခန္ဓဿ - ဤဒုက္ခ အစုကြီး၏၊ နိရောဓော - ချုပ်ပျောက်နေရခြင်းသည်၊ ဟောတိ - ဖြစ်၏။

**မှတ်ချက်။** ။ဖြစ်တုန်းက ပုဂ္ဂိုလ်သတ္တဝါတွေ၊ လူ၊ နတ် ဗြဟ္မာတွေ ဖြစ်ကြတာမဟုတ်။ ဓမ္မတွေချည်း စဉ်တန်းဖြစ်နေခဲ့ကြ သလို ယခု ချုပ်ပျောက်တော့လည်း ပုဂ္ဂိုလ်သတ္တဝါတွေ၊ လူနတ် ဗြဟ္မာတွေ ချုပ်ပျောက်ကြတာမဟုတ်။ ဓမ္မတွေချည်း ချုပ်ပျောက် နေကြခြင်းဖြစ်သည်။ "လောကကြီးတစ်ခုလုံး ဓမ္မတွေချည်း ဖြစ်ပေါ် ချုပ်ပျောက်နေကြတာ"ဟု ဆိုလို၏။

(က) ဤကဲ့သို့ ဟောလိုက်သဖြင့် ပုဂ္ဂိုလ်သတ္တဝါတွေ မပါဘဲ ဓမ္မအစဉ်အတန်းတွေသာ ဖြစ်နေကြ၍ ဓမ္မ အစဉ်အတန်းတွေသာ ချုပ်ပျောက်နေကြသည်ဟု

သဘောပေါက်ကြရန်ဖြစ်သည်။ ဤသို့ သဘော
ပေါက်လျှင် သင်္ခါယဒိဋ္ဌိ စင်ကြယ်နိုင်၏။

(ခ) ထိုတွင် ဖြစ် - ဖြစ်လာနေတဲ့ ဓမ္မအစဉ်အတန်းကို
မြင်လျှင် ဥစ္ဆေဒဒိဋ္ဌိ စင်ကြယ်နိုင်၏။

(ဂ) ချုပ်ပျောက် - ချုပ်ပျောက်ကုန်တဲ့ ဓမ္မ အစဉ်အတန်း
ကိုမြင်လျှင် သဿတဒိဋ္ဌိ စင်ကြယ်နိုင်၏။

**ပဋိစ္စသမုပ္ပါဒ် ပဋိလောမပါဠိ၏**
**မြန်မာပြန်သက်သက်ကား**

၁။ အဝိဇ္ဇာချုပ်လို့ သင်္ခါရတွေချုပ်ရ၊
၂။ သင်္ခါရတွေချုပ်လို့ ဝိညာဏ်ချုပ်ရ၊
၃။ ဝိညာဏ်ချုပ်လို့ နာမ်ရုပ်ချုပ်ရ၊
၄။ နာမ်ရုပ်ချုပ်လို့ သဠာယတနတွေချုပ်ရ၊
၅။ သဠာယတနတွေချုပ်လို့ ဖဿချုပ်ရ၊
၆။ ဖဿချုပ်လို့ ဝေဒနာချုပ်ရ၊
၇။ ဝေဒနာချုပ်လို့ တဏှာချုပ်ရ၊
၈။ တဏှာချုပ်လို့ ဥပါဒါန်ချုပ်ရ၊
၉။ ဥပါဒါန်ချုပ်လို့ ဘဝချုပ်ရ၊
၁၀။ ဘဝချုပ်လို့ ဇာတိချုပ်ရ၊

၁၁။ ဇာတိချုပ်လို့ ဇရာမရဏချုပ်ရ၊
သောက - ပရိဒေဝ - ဒုက္ခ
ဒေါမနဿ-ဥပါယာသတို့လည်း ချုပ်ကြရ၊ ဤသို့လျှင် ချမ်းသာသုခ မဖက် သက်သက်မျှသာဖြစ်သော ဒုက္ခအစုကြီး ချုပ်ပျက်နေကြရသည်။

**ပဋိစ္စသမုပ္ပါဒ် အင်္ဂါ ၁၂ ပါး၏ အဓိပ္ပါယ်အကျဉ်း**

၁။ **အဝိဇ္ဇာ** = သစ္စာလေးပါးဆိုင်ရာတို့ကို မသိတတ်တဲ့ သဘော၊ တစ်နည်း၊ မသိသင့်သောအရာတို့ကို သိ၍ သိသင့်သော အရာတို့ကို မသိတတ်တဲ့သဘော။

၂။ **သင်္ခါရ** = ပြုလုပ်တတ်တဲ့သဘော၊ စေတနာကို အရ ကောက်ရ၏။ ဤသင်္ခါရသည် ကာယသင်္ခါရ၊ ဝစီသင်္ခါရ၊ စိတ္တသင်္ခါရ။ တစ်နည်း-ပုညာဘိသင်္ခါရ-အပုညာဘိ သင်္ခါရ-အာနေဥ္စာဘိသင်္ခါရ။ လောကီကုသိုလ်၊ အကု သိုလ်စေတနာ ၂၉-ပါး။

၃။ **ဝိညာဏ်** = ဘဝတစ်ခုမှာ အဦးဆုံးစတင်၍ ဖြစ်ပေါ်သော စိတ်၊ (ပဋိသန္ဓေစိတ်)ကို အရကောက်ရ၏။ ခန္ဓာဖွဲ့လျှင် ဝိညာဏက္ခန္ဓာ။

၄။ **နာမ်ရုပ်** = (နာမ်တစ်ပုဒ် + ရုပ်တစ်ပုဒ်ဖြစ်၏။)

(က) နာမ်အရ အထက်ပါဆိုခဲ့ပြီးသော ပဋိသန္ဓေစိတ်နှင့် တွဲဖက်၍ဖြစ်သော စေတသိက်များ၊ ခန္ဓာဖွဲ့လျှင် စေတသိက်ခန္ဓာ ၃-ပါး။

(ခ) ရုပ်အရ ရှေးကံကြောင့်ဖြစ်သော ကမ္မဇရုပ်ကလေးများ၊ ခန္ဓာဖွဲ့လျှင် ရူပက္ခန္ဓာ။

**မှတ်ချက်။** ။ ထိုဝိညာဏ်နှင့် နာမ်ရုပ်ပေါင်းလျှင် ခန္ဓာငါးပါးဖြစ်၏။ ဟောစဉ်မှာတော့ မြတ်စွာဘုရားက အဓိကရှေ့ဆောင်ဖြစ်တဲ့ "ဝိညာဏ်"ကို စတင်၍ နှုတ်တော်က ထုတ်ဖော်ပြောကြား၏။ ပြီးမှ ဒုတိယအနေနှင့် "နာမ်ရုပ်"ဟူ၍ ထုတ်ဖော်ဟောကြားသည်။

ဤသို့ဟောစဉ်မှာ ခွဲခြား၍ ဟောကြားသော်လည်း ဖြစ်စဉ်မှာတော့ "ဝိညာဏ်နှင့် နာမ်ရုပ်"တို့သည် တစ်ပြိုင်နက် တစ်ချိန်တည်း ဖြစ်ကြသည်ဟု ဆို၏။ သို့ဖြစ်လျှင် "ခန္ဓာ ငါးပါး တစ်ပြိုင်နက်ဖြစ်သည်"ဟု သိနိုင်တော့သည်။

၅။ **သဠာယတန** =(ဆ + အာယတန)

(သ + အာယတန)

(သဠာယတန) အာယတန = ၆ ပါး၊ တည်ရာဌာန ၆ ပါးတို့ ဖြစ်ကြ၏။ ယင်းတို့ကား မျက်စိအကြည်။ နားအကြည်၊

နှာခေါင်းအကြည်၊ လျှာအကြည်၊ ကိုယ်အကြည်၊ စိတ်တို့ ဖြစ်ကြ၏။

**မှတ်ချက်။** ။ ဦးစွာပထမ အမိဝမ်းတွင် ရုပ်နှင့်နာမ်မျှ စတင်ဖြစ်ပွါးခဲ့ကြရာ ရက်သတ္တ (၁၁)ပတ်ခန့်အကြာ၌ မျက်စိ၊ နား၊ နှာခေါင်း၊ လျှာဟူ၍ လေးမျိုး တိုးလာ၏။ ယခင် ဖြစ်နှင့်သော ၂ မျိုးနှင့်ပေါင်း၍ "အာယတန ၆ ပါး" ဖြစ်လာသည်။ နာမ်တရားတို့ ဖြစ်ပေါ်ဖို့ရာ "တည်ရာဌာန ၆ ပါး"ဟူလို။

၆။ **ဖဿ** = အခံဓာတ် + အတိုက်ဓာတ် +အပွင့်ဓာတ်တွေ့ ဆုံကြ၊ ကြုံကြ၊ တွေ့ကြခြင်းကို "ဖဿ"ဟု ဆိုသည်။ တိဏ္ဏံ သင်္ဂတိ ဖဿောဟု ဆိုထား၏။ (တိဏ္ဏံ - သုံးခုတို့၏၊ သင်္ဂတိ - ပေါင်းမိ ဆုံမိကြခြင်းသည်၊ ဖဿော - ဖဿမည်၏။

၇။ **ဝေဒနာ** = ခံစားမှုသဘော။

"ခံစား"ဆိုတာ ဉာဏ်ဖြင့် ခံယူ၍ လက်ခံ၍ သိမှတ်ရသော သဘော ဖြစ်၏။ ယင်းသည် သုံးမျိုးရှိသည်။

(ဒုက္ခဝေဒနာ၊ သုခဝေဒနာ၊ ဥပေက္ခာဝေဒနာ)

ဒုက္ခဝေဒနာ = မခံသာသည့် အာရုံကို ခံစားမှု၊

သုခဝေဒနာ = ခံသာသည့် အာရုံကို ခံစားမှု၊

ဥပေက္ခာဝေဒနာ = ကြား အလယ် အလတ်အာရုံကို ခံစားမှု၊

၈။ **တဏှာ** = လိုချင်တပ်မက်မောမှု၊ လောဘတဏှာ။

ဤ၌ (အကျဉ်းအားဖြင့် ကာမတဏှာ၊ ဘဝတဏှာ၊ ဝိဘဝတဏှာဟု ၃-ပါး၊ အကျယ်အားဖြင့် တဏှာအပြား-၁၀၈ ပါးရှိ၏။)

၉။ **ဥပါဒါန်** (ဥပ+အာဒါန)ပြင်းပြင်းပြပြ မလွှတ် နိုင်ဘဲ စွဲစွဲလမ်းလမ်းယူမှု။

(အမှန်မှာ လိုချင်မှုအကြီးစားပင်ဖြစ်သည်။ ထို့ကြောင့် လိုချင်မှု အငယ်စားက တဏှာ၊ လိုချင်မှုအကြီးစား ဥပါဒါန်ဖြစ်၏)

၁၀။ **ဘဝ** = ဤနေရာတွင် (ဘဝေါ ဒုဝိဓေန အတ္ထိ ကမ္မဘဝေါ၊ အတ္ထိ ဥပတ္တိဘဝေါ)ဟူ၍။

ဘဝသည် ၂ မျိုးရှိ၏။ ကမ္မဘဝနှင့် ဥပပတ္တိဘဝတို့ဖြစ်ကြသည်။ ထိုတွင် လောကီကုသိုလ်-အကုသိုလ်ကံဟူသော စေတနာ ၂၉ ပါးသည် ကမ္မဘဝမည်၏။ သင်္ခါရတုန်းက အရကောက်နှင့် တူသည်။ အကြောင်း ဘဝဖြစ်၏။

ဥပပတ္တိဘဝကား လောကီဝိပါက်စိတ် (ဗာတ္တိံသ) ၃၂ ပါးနှင့် ကံကြောင့်ဖြစ်တဲ့ ကမ္မဇရုပ်များဖြစ်၏။ အကျိုးဘဝဖြစ်သည်။

၁၁။ **ဇာတိ** = ရုပ်နာမ် ၂ ပါး၊ သို့မဟုတ် ခန္ဓာ ၅ ပါး တို့၏ ဖြစ်ပေါ်မှု (ဥပါဒ်)

၁၂။ **ဇရာမရဏ** = ရုပ်နာမ် ၂ ပါး၊ ခန္ဓာ ၅ ပါးတို့၏ အိုမှုနှင့် သေမှု (ဠီနှင့်ဘင်)။

ဤကား ပဋိစ္စသမုပ္ပါဒ် ကိုယ်ထည်အင်္ဂါ တစ်ဆယ့်နှစ်ပါး တို့၏ အစိပ္ပါယ်အကျဉ်းချုပ်မျှဖြစ်၏။ အကျယ်ကား သမ္မောဟ ဝိနောဒနီ အဋ္ဌကထာ၌ ပြည့်စုံစွာ ဖွင့်ပြလျက်ရှိသည်။

သောကပရိဒေဝ စသည်တို့ကား ကိုယ်ထည်အင်္ဂါမဟုတ်၊ အကျိုးဆက်မျှသာဖြစ်၏။ လူတိုင်းနှင့်မဆိုင်၊ အချို့ပုဂ္ဂိုလ်များ မဖြစ် ကြ။ (သောကာဒိဝစနံ ပနေတ္ထ နိဿန္ဒဖလနိဒဿနံ၊ သဂြိုဟ်)

ဆိုခဲ့ပြီး ကိုယ်ထည်အင်္ဂါ ၁၂ ပါးကား လူတိုင်းနှင့်ဆိုင်၏။ လူတိုင်း တွေ့ကြုံရသော အရာများဖြစ်သည်။

(က) သောက = တအုံနွေးနွေးအတွင်း ဆွေး-ဆွေး၍ ပူပန်စိုးရိမ်ရမှု။

(ခ) ပရိဒေဝ = အသံတွေထွက်လာအောင် ငိုကြွေး ရမှု။

(ဂ) ဒုက္ခ = ခန္ဓာကိုယ် ပင်ပန်းနွမ်းနယ်ဆင်းရဲမှု။

(ဃ) ဒေါမနဿ = စိတ်နှလုံးပင်ပန်းနွမ်းရိ ဆင်းရဲမှု။

(င) ဥပါယာသ = နှလုံးသွေး ရပ်သွားရလောက် အောင် အလွန့်အလွန် ပြင်းပြစွာ ပင်ပန်းမှု။

မှတ်ချက်။ ။ ဤနေရာတွင် သောက-ပရိဒေဝ-ဥပါယာသ တို့၏ အထူးကို ဥပမာဖြင့် ဖော်ပြပါဦးအံ့။

(က) မီးဖိုပေါ်တွင် အိုးကင်းတင်၍ ဆီထည့်ပြီး မီးပြင်းထိုးသောအခါ တဖျောက်ဖျောက်နှင့် ဆီတွေ ကျက်လာအောင် ပူပြင်းမှု ပမာဏသည် သောက အဆင့်ဖြစ်၏။

(ခ) ဆီတွေဝေ၍ လျှံကျလာအောင် ပူပြင်းမှုပမာဏ သည် ပရိဒေဝအဆင့်ဖြစ်သည်။

(ဂ) ဆီတွေ ကုန်ခန်းခြောက်သွေ့သွားရလောက် အောင် ပူပြင်းမှု ပမာဏကား ဥပါယာသ အဆင့် ဖြစ်၏။

(ဆောင်)အိုးကင်းဆီကျက်၊ သောကတွက်၊ လျှံတက်ပရိဒေ။
ကုန်ခန်းအောင်သာ၊ ကျက်မှုမှာ၊ ဥပါယာသပေ။

**ပဋိစ္စသမုပ္ပါဒ် ဆိုတာ**

ပဋိစ္စ - အကြောင်းတရားကိုစွဲ၍ (ဝါ) အကြောင်းတရားကြောင့် သမုပ္ပါဒ - အကျိုးတရားဖြစ်ရ။ ဘာသာပြန်၍ ပြောရလျှင် "အကြောင်းတရားကြောင့် - အကျိုးတရားဖြစ်ရ"၊ ထပ်မံချုံး၍ ပြောရလျှင် "အကြောင်းကြောင့်-အကျိုးဖြစ်ရ"ဟု အဓိပ္ပါယ်ရ

သည်။ ပါဠိလို "ပဋိစ္စ+သမုပ္ပါဒ"ပါဠိသက်အနေအားဖြင့် "ပဋိစ္စ သမုပ္ပါဒ်"ဟု ဖြစ်လာရ၏။ မြန်မာပြန်သက်သက်တွင် "အကြောင်းကြောင့် အကျိုးဖြစ်သောတရား"ဟု ဆိုလိုသည်။

အဝိဇ္ဇာကြောင့် - သင်္ခါရဖြစ်ရ၊
သင်္ခါရကြောင့် - ဝိညာဏ်ဖြစ်ရ။ ပေ ။
ဇာတိကြောင့် - ဇရာမရဏဖြစ်ရ
(အကျိုးဆက်အနေအားဖြင့်)

သောက - ပရိဒေဝ - ဒုက္ခ - ဒေါမနဿ - ဥပါယာသတို့လည်း ဖြစ်ကြရ၏။

ထိုသို့ဖြစ်ကြသောအခါ သောက-ပရိဒေဝ စသော အကျိုးဆက်တရားတို့သည် အကုသိုလ်တရားများ ဖြစ်ကြ၏။ သောကဆိုတာ တရားကိုယ်အားဖြင့် အကုသိုလ်စိတ် ဒေါသမူဒွေး၌ ယှဉ်သော ဒေါမနဿဝေဒနာ။

ပရိဒေဝဆိုတာက စိတ္တဇ ဝိပလ္လာသ သဒ္ဒရုပ်၊ စိတ်ကြောင့်ဖြစ်သော အသံသည်ပင် ရှိုးရိုးပြောဆိုသံမဟုတ်။ ဖောက်ပြန်သောငိုသံဖြစ်၍ ဝိပလ္လာသ သဒ္ဒဟုခေါ်ရသည်။

ဒုက္ခဆိုတာ ဒုက္ခသဟဂုတ်ကာယ ဝိညာဏ်၌ ယှဉ်သော ဝေဒနာ၊ ဒေါမနဿဆိုတာ ဒေါသမူဒွေး၌ ယှဉ်သော ဒေါမနဿ ဝေဒနာ၊ ဥပါယာသဆိုတာ ဒေါသမူဒွေး၌ယှဉ်သော ဒေါသစေ

တသိက်များ ဖြစ်ကြ၏။ သို့ဖြစ်၍ အကုသိုလ် တရားများချည်း ဖြစ်ကြသည်။

## အဝိုင်းပုံဖော်ရခြင်းအကြောင်း

အကုသိုလ်တရားများမှ ဖြစ်ကြရိုးမှန်လျှင် အကုသိုလ်စိတ်တွေထဲမှာ မောဟစေတသိက်ပါနေကြ ပါရမြဲဖြစ်၏။ "မောဟ" ဆိုတာ တခြားမဟုတ် "အဝိဇ္ဇာ"ပင် ဖြစ်သည်။

"အဝိဇ္ဇာ"ဖြစ်၍ အဝိဇ္ဇာကို အရင်းခံ၍ သင်္ခါရတရားတွေ လုပ်တော့မည်။ သင်္ခါရတရားတွေ ဖြစ်တော့မည်။ ထို့နောက် ဝိညာဏ်-နာမ်ရုပ် စသည်ဖြစ်ကြပေတော့မည်။ ဤသို့လျှင် ပြန်၍ လှည့်ပတ်ခွေတော့၏။ ထို့ကြောင့် ဝိုင်း၍ သွားသလိုဖြစ်တော့သည်။

သို့ဖြစ်၍ ပဋိစ္စသမုပ္ပါဒ် အင်္ဂါ(၁၂)ပါးကို အောက်ပါအတိုင်း အဝိုင်းပုံဖော်၍ ထားတော်မူကြခြင်းဖြစ်၏။



ပဋိစ္စသမုပ္ပါဒ် အင်္ဂါ(၁၂)ပါးကို အဝိုင်းခွေသောအခါ (နာရီ လက်တံ လည်သကဲ့သို့) လက်ယာဘက်သို့ လှည့်ပတ်သော အခွေမျိုး-ခွေထားသည်။ ထို့ပြင်လည်း အကြောင်းတရားတွေ တစ်ကန့်၊ အကျိုးတရားတွေ တစ်ကန့်၊ သီးသန့်တစ်အုပ်စုစီ ထားလို၏။ သို့ဖြစ်၍ အင်္ဂါ(၁၂)ပါးကို အုပ်စုခွဲလိုက်သောအခါ ၄-အုပ်စု ဖြစ်လာသည်။

**မူလတည်ရှိခဲ့သော ပဋိစ္စသမုပ္ပါဒ် အင်္ဂါ ၁၂ ပါး**

အဝိဇ္ဇာ - သင်္ခါရ - ဝိညာဏ် - နာမ်ရုပ်

သဠာယတန - ဖဿ - ဝေဒနာ - တဏှာ

ဥပါဒါန် { ကမ္မဘဝ / ဥပပတ္တိဘဝ } - ဇာတိ - ဇရာမရဏ။

**အကြောင်းတရား – အကျိုးတရား**

**သဘောတူရာ – တူရာ**

**အုပ်စုပွဲ့လိုက်သောအခါ**

၁။ အဝိဇ္ဇာ - သင်္ခါရ။

၂။ ဝိညာဏ် - နာမ်ရုပ်၊ သဠာယတန - ဖဿ - ဝေဒနာ။

၃။ တဏှာ - ဥပါဒါန် (ကမ္မဘဝ)။

၄။ ဇာတိ - ဇရာမရဏ (ဥပပတ္တိဘဝ)။

အုပ်စု (၁)တွင် အဝိဇ္ဇာနှင့် သင်္ခါရ (အကြောင်းတရား)။

အုပ်စု (၂)တွင် ဝိညာဏ်၊ နာမ်ရုပ်၊ သဠာယတန၊ ဖဿ၊ ဝေဒနာ (အကျိုးတရားများ)။

အုပ်စု (၃)တွင် တဏှာ၊ ဥပါဒါန်၊ ကမ္မဘဝ (အကြောင်းတရားများ။)

ဘဝ(၂)မျိုးရှိရာတွင် ဤအုပ်စု(၃)၌ အကြောင်းတရားဖြစ်တဲ့ ကမ္မဘဝကိုသာ ယူထားလို၏။ သို့ဖြစ်၍ ကမ္မဘဝကို ယူထားလိုက်ပြီးလျှင် အကျိုးတရားဖြစ်တဲ့ ဥပပတ္တိဘဝကို သဘောတူရာ အုပ်စု(၄)သို့ ပို့လိုက်သည်။

အုပ်စု (၄)တွင် ဇာတိ ဇရာမရဏ (အကျိုးတရားများ)။

ထို့ပြင် အုပ်စု(၃)မှ ပြောင်းရွှေ့လာသော ဥပပတ္တိဘဝလည်း ဇာတိအောက်တွင် ရောက်ရှိနေသည်ကို သတိပြုပါ။

(ဇာတိ = ဖြစ်ပေါ်ခြင်း၊ ဥပပတ္တိဘဝ = ဖြစ်ပေါ်ခြင်း၊ သဘောချင်းတူရာ ကပ်ထားသည်)။

## ကျယ်ဝန်းသော အဓိပ္ပါယ်များကို ပြန်လည်ရှင်းပြချက်

ယခုဖော်ပြလတ္တံ့သော အကြောင်းအရာတို့မှာ ပဋိစ္စသမုပ္ပါဒ်ကို အကျယ်ဟောပြတဲ့ ဝိဘင်းပါဠိတော်ကြီးနှင့် ယင်း၏အဖွင့် သမ္မောဟဝိနောဒနီ အဋ္ဌကထာတို့၌ လာသော အဓိပ္ပါယ်များဖြစ်ပါသည်။

"ဝေဒနာပစ္စယာ တဏှာ"အရ ဝေဒနာကြောင့်ဖြစ်သော တဏှာသည် ကာမတဏှာ၊ ဘဝတဏှာ၊ ဝိဘဝတဏှာဟု ၃ မျိုး ရှိ၏။ ထိုတွင် -

(က) ကာမတဏှာဟူသော လူတို့၌ ဖြစ်ရိုးဖြစ်စဉ် ကာမဂုဏ်အာရုံတွေကို (သားသမီးနှင့် ပစ္စည်းဥစ္စာ စသည်ကို) တွယ်တာသော တဏှာသည် ကာမတဏှာမည်၏။

(ခ) ဤဘဝ ခန္ဓာကိုယ်ကို "မြဲ၏"ဟု ယူဆသော ဒိဋ္ဌိသည် "သဿတဒိဋ္ဌိ"မည်၏။ ထိုဒိဋ္ဌိကိုပင် "ဘဝဒိဋ္ဌိ"ဟုလည်း ခေါ်သေး၏။ ထိုဘဝ ဒိဋ္ဌိနှင့်အတူဖြစ်သော တဏှာသည် ဘဝ တဏှာမည်၏။

(ဂ) ဤဘဝခန္ဓာကိုယ်ကို "သေလျှင်ပြတ်၏"ဟု ယူဆ နေသော ဒိဋ္ဌိသည် "ဥစ္ဆေဒဒိဋ္ဌိ"မည်၏။ ထိုဒိဋ္ဌိကိုပင် "ဝိဘဝဒိဋ္ဌိ" ဟုလည်း ခေါ်သေး၏။ ထိုဝိဘဝဒိဋ္ဌိနှင့်အတူဖြစ်သော တဏှာ သည် "ဝိဘဝတဏှာ"မည်၏။

**တဏှာအစစ် တစ်ရာ့ရှစ်**

ဤသို့သော တဏှာသုံးတန်သည် ရူပါရုံ၊ သဒ္ဒါရုံ၊ ဂန္ဓာရုံ၊ ရသာရုံ၊ ဖောဋ္ဌဗ္ဗာရုံ၊ ဓမ္မာရုံဟူသော အာရုံ(၆)ပါးအပေါ်တွင် တွယ်တာတတ်၏။

ထို့ပြင် ဤတဏှာတို့ဖြင့် လွန်ခဲ့ပြီးသော အတိတ်က အာရုံတွေကို မျှော်မှန်း၍လည်း တွယ်တာတတ်ကြ၏။ ယခု ပစ္စုပ္ပန်အာရုံတွေကိုလည်း တွယ်တာတတ်ကြ၏။ နောင်လာမည့် အာရုံတွေကိုလည်း ကြိုတင်၍ လှမ်းမျှော်တတ်ကြသည်။

ထိုမှတစ်ပါး ဤတဏှာတို့သည် မိမိသန္တာန်၊ သူတစ်ပါး သန္တာန်တို့၌လည်း ဖြစ်တတ်ကြ၏။

ထို့ကြောင့် တဏှာ ၃ တန်ကို အရင်းတည်ပြီး အာရုံ ၆ ပါးဖြင့် မြှောက်၊ ကာလ ၃ ပါးဖြင့် ထပ်မြှောက်၊ သန္တာန် ၂ ပါး ဖြင့် ထပ်မြှောက်လျှင် တဏှာအမျိုးပေါင်း (၁၀၈)ပါး ဖြစ်ပွားလေ သည်။

မြှောက်ပွားရာ၌(အာ)ကို အာရုံ ၆ ပါး၊ (ကာ)ကို ကာလ ၃ ပါး၊ (သန်)ကို သန္တာန် ၂ ပါးဟု မှတ်သားပါ။

ဦးစွာပထမ တဏှာ ၃ တန်ကို တည်ထား၊ အာရုံ ၆ ပါး ဖြင့်မြှောက်၊ ၃×၆=၁၈ ပါး၊ ယင်းကိုကာလ ၃ ပါးဖြင့်မြှောက်၊ ၁၈×၃=၅၄ ပါး၊ ယင်းကို တစ်ဖန် သန္တာန် ၂ ပါးဖြင့် မြှောက်သော် ၅၄×၂=၁၀၈ ပါး ဖြစ်ပွားလေတော့သည်။

(ဆောင်) **တဏှာသုံးတန်၊ အရင်းခံ၊**
**အာ - ကာ - သန် ဖြင့်မြှောက်။**
**တဏှာအစစ်၊ တစ်ရာ့ရှစ်၊**
**မှတ်လစ် စာရင်းပေါက်။**

## ဥပါဒါန် ၄ မျိုး၏ တရားကိုယ်များ

ဥပါဒါန်သည် ၄ မျိုးရှိ၏။ ကာမုပါဒါန်၊ ဒိဋ္ဌုပါဒါန်၊ သီလဗ္ဗတုပါဒါန်၊ အတ္တဝါဒုပါဒါန်တို့ ဖြစ်ကြသည်။

(၁) ကာမုပါဒါန် (ကာမ + ဥပါဒါန်) = ငါးပါးအာရုံ ကာမဂုဏ်တို့၌ တွယ်တာနှစ်သက်တတ်တဲ့ လောဘတဏှာ။

(၂) ဒိဋ္ဌုပါဒါန် (ဒိဋ္ဌိ + ဥပါဒါန်) = ဆိုလတ္တံ့သော သီလဗ္ဗတပရာမာသနှင့် အတ္တဝါဒဒိဋ္ဌိ ၂ မျိုးမှတစ်ပါး ကျန်ဒိဋ္ဌိ အမျိုးမျိုး။

(၃) သီလဗ္ဗတုပါဒါန် (သီလဗ္ဗတ + ဥပါဒါန်) = ခွေးအကျင့်၊ နွားအကျင့် ကျင့်၍ "ငါတို့အကျင့်သာလျှင် အမှန်၊ သူများတွေရဲ့ အကျင့်က အမှား"ဟူ၍ စွဲစွဲလမ်းလမ်း ယူသောအယူ။

(၄) အတ္တဝါဒုပါဒါန် (အတ္တဝါဒ + ဥပါဒါန်)=ဤခန္ဓာကိုယ်တွင်း၌ အသက်၊ လိပ်ပြာ၊ ဇီဝ၊ အတ္တ၊ ဝိညာဉ်ကောင်ရှိသည်ဟု စွဲစွဲလမ်းလမ်း ယူသောအယူ။

**မှတ်ချက်။** ။ထိုလေးပါးတို့တွင် တရားကိုယ် အရကောက်မှာ နံပါတ်(၁) က လောဘ၊ နံပါတ် (၂) (၃) (၄)တို့က ဒိဋ္ဌိများဖြစ်ကြသည်။

## ဘဝ (၂)မျိုးရဲ့ တရားကိုယ်များ

တတ္ထ ကတမော ဥပါဒါနပစ္စယာ ဘဝေါ၊

ဘဝေါ ဒုဝိဓေန အတ္ထိ ကမ္မဘဝေါ၊ အတ္ထိ ဥပပတ္တိဘဝေါ။

(ဝိဘင်းပါဠိတော်၊ နှာ-၁၃၄)

ဘဝသည် ကမ္မဘဝ၊ ဥပပတ္တိဘဝဟု ၂ မျိုးရှိ၏။

ထိုတွင် လောကီကုသိုလ်၊ အကုသိုလ်ကံဟူသော စေတနာ ၂၉-ပါးသည် "ကမ္မဘဝ" မည်၏။

(စေတနာ ၂၉ ပါးဆိုတာ အကုသိုလ်စိတ် ၁၂ ပါး၌ရှိသော စေတနာ ၁၂ ပါး၊ ကာမာဝစရ မဟာကုသိုလ်စိတ် ၈ ပါး၌ရှိသော စေတနာ (၈)ပါး၊ ရူပါဝစရ ကုသိုလ်စိတ် (၅)ပါး၌ရှိသော စေတနာ (၅)ပါး။ အရူပါဝစရကုသိုလ်စိတ် ၄ ပါး၌ရှိသော စေတနာ ၄ ပါး ပေါင်း (၂၉)ပါးဖြစ်သည်။

(တတ္ထ ကတမော ကမ္မဘဝေါ? ပုညာဘိသင်္ခါရော၊ အပုညာဘိ သင်္ခါရော၊ အာနေဉ္ဇာဘိသင်္ခါရော၊ အယံ ဝုစ္စတိ ကမ္မဘဝေါ)

ဤစေတနာ ၂၉ ပါးသည် မျိုးစေ့သဖွယ်ဖြစ်၏။ အပင်ပေါက်ခြင်း၊ ကိုင်းတက်တွေ ဝေဖြာခြင်းဟူသော အကျိုးတရားတို့ကို ဖြစ်ပေါ်စေ၍ အကျိုးပေးမည်။ ဆိုလိုသည်မှာ နောက်ဘဝ

တို့ကို ဖြစ်ပေါ်စေလိမ့်မည်။ ထို့ကြောင့် ဝိဘင်းပါဠိတော်ကြီး စာမျက်နှာ-၁၄၃ တွင် -

“သဗ္ဗမ္ပိ ဘဝဂါမိကမ္မံ ကမ္မဘဝေါ”

ဟူ၍ ဟောတော်မူခြင်းဖြစ်၏။ (သဗ္ဗမ္ပိ - အလုံးစုံလည်း ဖြစ်သော၊ ဘဝဂါမိကမ္မံ - နောက်ဘဝသို့ ရောက်စေတတ်သော ကံသည်၊ ကမ္မဘဝေါ - ကမ္မဘဝမည်၏။)

သမ္မောဟဝိနောဒနီ အဋ္ဌကထာ၌ “ဘဝတီတိ ဘဝေါ”ဟု ကတ္တုသာဓ်ဝိဂြိုဟ်ဆို၏။ ဘဝတိ-ဖြစ်တတ်၏။ ဣတိ-ထို့ကြောင့်၊ ဘဝေါ-ဘဝမည်၏။ (အကြောင်းကံကို “ဘဝ”ခေါ်သည်ဟု ဆို၏)

ကမ္မမေဝ ဘဝေါ ကမ္မဘဝေါ။ ။

ကမ္မမေဝ - ကုသိုလ်ကံ အကုသိုလ်ကံသည်ပင်၊ ဘဝေါ- ဘဝမည်၏။ ကမ္မဘဝေါ - ကုသိုလ်ကံ အကုသိုလ်ကံသည်ပင် ကမ္မဘဝ (ကံသည်ပင် ဘဝမည်၏ ဟူလို။)

မှတ်ချက်။ ။ဤကမ္မဘဝ၌ “ဘဝ”အရ အကြောင်း တရားကံတွေကို “ဘဝ”ဟု ခေါ်သည်။ (လူ့ဘဝ၊ နတ်ဘဝ၊ ဗြဟ္မာ ဘဝ စသော အကျိုးဘဝတွေကို ဆိုလိုသည်မဟုတ်။)

**ဥပပတ္တိဘဝဆိုတာ**

“ဥပပတ္တိဘဝ” ကား အကျိုးဘဝဖြစ်သည်။

အရကောက်မှာ အကြောင်းကံကြောင့် ဖြစ်ရသော လောကီဝိပါက်စိတ် ဇာတ္တိသ(၃၂)နှင့် ကမ္မဇရုပ်များဖြစ်၏။

ဥပပဇ္ဇတီတိ ဥပပတ္တိ။ ဥပပဇ္ဇတိ-နောက်ဘဝ၌ ကပ်ရောက်ရ၏။ ဣတိ-ထို့ကြောင့်၊ ဥပပတ္တိ-ဥပပတ္တိ မည်၏။

ဘဝတီတိ ဘဝေါ။ ဘဝတိ-ကံကြောင့်ဖြစ်ရ၏။ ဣတိ-ထို့ကြောင့်၊ ဘဝေါ-ဘဝမည်၏။ (ကံကြောင့်ဖြစ်သောဘဝသည် အကျိုးဘဝဖြစ်၏။)

ဥပပတ္တိ စ သော ဘဝေါ စာတိ ဥပပတ္တိဘဝေါ။ ။

ဥပပတ္တိစ-နောက်ဘဝ၌ ကပ်ရောက်ရသည်လည်း ဖြစ်၏။ သော - ထိုနောက်ဘဝ၌ ကပ်ရောက်ရဟူသည်။ ဘဝေါစ - ဘဝလည်းဟုတ်၏။ ဣတိ-ထို့ကြောင့်၊ ဥပပတ္တိ ဘဝေါ-ဥပပတ္တိဘဝမည်၏။ (ကံကြောင့်ဖြစ်ရသော အကျိုးတရားများသည် ဘဝမည်၏ -ဟူလို)

ယခုဘဝ၌ ကုသိုလ်ကံ၊ အကုသိုလ်ကံကြောင့် နောက်ဘဝ၌ ဖြစ်ရသော အကျိုးဝိပါက်များကို "ဥပပတ္တိဘဝ" ခေါ်သည်ဟု ဆိုလိုသည်။

ယင်းဥပပတ္တိဘဝသည် ကာမဘဝ၊ ရူပဘဝ၊ အရူပဘဝ၊ သညီဘဝ၊ အသညီဘဝ၊ နေဝသညီ နာသညီဘဝ၊ ဧကဝေါကာရဘဝ၊ စတုဝေါကာရဘဝ၊ ပဉ္စဝေါကာရဘဝဟူ၍ ဘဝကြီး ၉-ပါး အပြားရှိ၏။ သူတို့တရားကိုယ်တွေမှာ ညဝါဓာတုကထာအရ

ကောက်၌ ပါပြီးဖြစ်ကြသည်။ ယင်း ၉-ပါးကို ချုံးလိုက်လျှင် ကာမဘဝ၊ ရူပဘဝ၊ အရူပဘဝဟူ၍ ၃-မျိုး၌ အကျုံးဝင်သည်။

(ပဋိစ္စသမုပ္ပါဒ်ဝိဘင်း ပါဠိတော် ၁၄၃)

**ဥပါဒါနပစ္စယာ ဘဝေါ**

**ကာမုပါဒါန်ကြောင့် ဘဝ ၂ မျိုးဖြစ်ရပုံ**

ပုထုဇဉ်တို့ဆိုတာ ထင်မိထင်ရာ စွဲလမ်းတတ်ကြ၏။ ကြောင်းကျိုးသင့် မသင့် ဆင်ခြင်သူက နည်းပါးတတ်ကြသည်။ သို့ဖြစ်၍ ကာမုပါဒါန်အစွမ်း(လောဘအစွမ်း)ဖြင့် လူ့ချမ်းသာ၊ နတ်ချမ်းသာကို ရလိုကြသဖြင့် ထိုထိုကံများကို ပြုလုပ်တတ်ကြ၏။

ဆရာမှားနှင့် ပေါင်းမိ၍ ဆရာ၏ ညွှန်ကြားချက်အတိုင်း သားကောင်သတ်ပြီး ယဇ်နတ်ပူဇော်ခြင်း၊ တစ်ဦးကိုတစ်ဦး သတ်ဖြတ်လုယူ တိုက်ခိုက်ခြင်းစသော ဒုစရိုက်အမှုများကို ပြုမိတတ်ကြသည်။ ထိုအခါ အကုသိုလ်ကမ္မဘဝ ဖြစ်ကြ၏။

ထိုအကုသိုလ် ကမ္မဘဝကြောင့် အပါယ်ဘုံ၌ ဥပပတ္တိဘဝဖြစ်ကြရလေသည်။ ထိုနည်းဖြင့် ဥပါဒါန်ကြောင့် ဘဝ ၂ မျိုးဖြစ်နိုင်ကြလေ၏။)

## ဆရာကောင်းနှင့် ပေါင်းမိ၍

တစ်ချို့တော့လည်း ဆရာကောင်းနှင့် ကပ်မိ၍ ဆရာကောင်း၏ ညွှန်ကြားချက်အတိုင်း ဒါန၊ သီလစသော ကာမာဝစရ ကုသိုလ်ကံကို ပြုတတ်ကြလေသည်။ ထိုအခါ ကုသိုလ်ကမ္မဘဝ ဖြစ်ကြ၏။ ထိုကုသိုလ်ကမ္မဘဝကြောင့် မျှော်လင့်ချက်အတိုင်း လူ့ဘုံ နတ်ရပ်၌ ကောင်းမြတ်သော ဥပပတ္တိဘဝ ဖြစ်ကြရလေသည်။

တစ်ချို့ပုဂ္ဂိုလ်ကား "ရူပဘုံ၊ အရူပဘုံ၌ ကာမဘုံထက်ပင် စည်းစိမ်ချမ်းသာတွေ ပေါများသေး၏"ဟု ကြားဖူး၍ ထိုချမ်းသာကို ခံစားလိုသော ကာမုပါဒါန်ဖြစ်၏။ ထို့ကြောင့် ရူပဘုံ၊ အရူပဘုံရောက်ရေး ဈာန်ရအောင် အားထုတ်ကြကုန်၏။ ထိုအခါ ရူပဈာန်၊ အရူပဈာန် ကမ္မဘဝဖြစ်၏။

ထိုရူပဈာန်၊ အရူပဈာန် ကမ္မဘဝကြောင့် ထိုရူပဘုံ၊ အရူပဘုံ၌ ဥပပတ္တိဘဝဟူသော ဝိပါက်ကမ္မဇရုပ်များ ဖြစ်ကြလေသည်။ ဤသို့လျှင် ကာမုပါဒါန်ကြောင့် (ကမ္မဘဝ၊ ဥပပတ္တိဘဝဟူသော ဘဝ ၂ မျိုး ဖြစ်နိုင်ကြလေသည်။

## ဒိဋ္ဌုပါဒါန်ကြောင့် ဘဝ ၂ မျိုးဖြစ်ရပုံ

အချို့သော ဥစ္ဆေဒဒိဋ္ဌိ အယူရှိတဲ့ ပုဂ္ဂိုလ်တို့သည် "ငါ၏ အတ္တသည် ကာမသုဂတိဘုံ၊ ရူပဘုံ၊ အရူပဘုံတို့၌ ပြတ်စဲရလျှင်

ကောင်းသော ပြတ်စဲခြင်းပေပဲ”ဟု စွဲမြဲယူဆကြ၏။ ပြီးလျှင် ဥစ္ဆေဒဒိဋ္ဌိဟူသော ဒိဋ္ဌုပါဒါန် အရင်းခံ၍ ထိုဘုံများသို့ရောက်ဖို့ရန် ကုသိုလ် ကမ္မဘဝကို ပြုလုပ်ကြလေ၏။

တစ်ဖန် သဿတဒိဋ္ဌိ အယူရှိတဲ့ပုဂ္ဂိုလ်တို့ကလည်း“ငါ၏ အတ္တသည် ကာမသုဂတိဘုံ၊ ရူပဘုံ၊ အရူပဘုံတို့၌ ဖြစ်ရလျှင် ကောင်းချမ်းသာခွင့်ရပေလိမ့်မည်”ဟု သဿတဒိဋ္ဌိဟူသော အတ္တဝါဒုပါဒါန် အရင်းခံလျက် ထိုဘုံများသို့ ရောက်ဖို့ရန် ကံကိုပြုကြလေကုန်၏။

တစ်ဖန် အချို့သော သီလဗ္ဗတုပါဒါန် အယူရှိသောသူတို့သည် “ငါ ယခုကျင့်နေသော အလေ့အကျင့်ကို နတ်ပြည်၊ ဗြဟ္မာပြည်တို့၌ ကျင့်ရလျှင် လွယ်လွယ်ကူကူဖြင့် ပြည့်စုံပေလိမ့်မည်။” သီလဗ္ဗတုပါဒါန် အရင်းခံလျက် စွဲစွဲမြဲမြဲယူထားသည်။ ပြီးလျှင် ထိုဘုံများသို့ရောက်ဖို့ရန် ကံကို ပြုကြကုန်၏။ ထိုအခါ ဆိုင်ရာဆိုင်ရာ ကမ္မဘဝဖြစ်ကြပြီ။

ထိုသို့ပြုကြရာတွင် လမ်းမှန်နည်းမှန် ကျင့်ကြံလျှင် ရည်ရွယ်ရင်းအတိုင်း သုဂတိဘုံများ၌ ဥပပတ္တိဘဝ ဖြစ်ရ၏။ လမ်းလွဲ ကျင့်မိလျှင်ကား အပါယ်ဘုံ၌ ဥပပတ္တိဘဝ ဖြစ်ကြရလေသည်။

ဤသို့လျှင် ဒိဋ္ဌုပါဒါန်အမျိုးမျိုးကြောင့် (ကမ္မဘဝ၊ ဥပပတ္တိဘဝဟူသော) ဘဝ ၂ မျိုး ဖြစ်ကြရလေသည်။

## ဘာ့ကြောင့် ကမ္မဘဝ ဥပပတ္တိဘဝ ခေါ်ရသလဲ

ဤဆိုခဲ့ပြီးသော စကားစဉ်များအရ ဥပါဒါန်ကြောင့် ဘဝဖြစ်ရပုံကိုလည်းကောင်း၊ ဘဝဖြစ်ရာတွင် (ကမ္မဘဝ+ဥပပတ္တိဘဝ) ဟူ၍ ဘဝ ၂ မျိုးဖြစ်ရပုံကိုလည်းကောင်း သိရသည်။

(က) ထိုတွင် ယခုဘဝ၌ပင် လက်ငင်းစေတနာတွေ ဖြစ်ပေါ်ရသည်က (ကံတရားတွေဖြစ်သောကြောင့်) ကမ္မဘဝဟု ခေါ်ရပုံ။

(ခ) ထိုကမ္မဘဝကြောင့် ဆက်လက်၍ နောက်ဘဝ၌ ဝိပါက်စိတ် ကမ္မဇရုပ်တွေ ဖြစ်ရသည်က (အကျိုးအဖြစ်ဖြင့် ဖြစ်ရသောကြောင့်)ဥပပတ္တိဘဝ ခေါ်ရပုံတို့ကိုလည်း သိရသည်။ ဤဘဝ ၂ မျိုးလုံးသည် ဥပါဒါန်အရင်းခံများ ဖြစ်ကြလေသည်။

ပဋိစ္စသမုပ္ပါဒ်စက်ဝိုင်းအရ "ကမ္မဘဝ"ဆိုတာ ယခု ပစ္စုပ္ပန်ကာလ၊ ပစ္စုပ္ပန်ဘဝမှာ ဖြစ်ရသောကြောင့် ပဋိစ္စသမုပ္ပါဒ်၌ စက်ဝိုင်းတွင် ပစ္စုပ္ပန် တတိယအကွက်မှာနေစေ။

"ဥပပတ္တိဘဝ"ဆိုသည်ကား အနာဂတ်ကာလ၊ အနာဂတ်ဘဝမှာ ဖြစ်ရသောကြောင့် ပဋိစ္စသမုပ္ပါဒ်စက်ဝိုင်းတွင် အနာဂတ်ဖြစ်သည့် စတုတ္ထအကွက်သို့ ပြောင်းရွှေ့သွားစေ။

ဤသို့စီစဉ်လိုက်တော့မှလည်း (၁) အကွက်က အကြောင်းသီးသန့်၊ (၂) အကွက်က အကျိုးသီးသန့်၊ (၃) အကွက်က အကြောင်းသီးသန့်၊ (၄) အကွက်က အကျိုးသီးသန့်ဖြစ်သွားသည်။

## ကမ္မဘဝဟူ၍ နေပုံအကြောင်း

ပဋိစ္စသမုပ္ပါဒ်စက်ဝိုင်း တတိယအကွက်တွင် ကမ္မဘဝကို ထားရာ၌ ဟအက္ခရာ၊ သို့မဟုတ် လအက္ခရာအတွင်း တစ်ဘက်မှာ ကမ္မ၊ တစ်ဘက်မှာ ဘဝသွင်း၍ ထားသည်ကို တွေ့ကြရမည် ဖြစ်၏။

အဓိပ္ပါယ်ဖော်ပြလိုသည်ကား ဤတတိယအကွက်တွင် ရှိသော ဘဝသည် ဥပပတ္တိဘဝမဟုတ်။ ကမ္မဘဝဟု သိစေလို၏။ သို့ဖြစ်၍ ကမ္မဟူသော ဂုဏ်ထူးပုဒ်ပေါ်အောင် ဟအက္ခရာ၊ သို့မဟုတ် လအက္ခရာအတွင်း၌ တစ်ဘက်တွင် ကမ္မပြီးမှ အခြား တစ်ဘက်တွင် ဘဝသွင်း၍ ပြထားသည်။

ထိုသို့ မသွင်းဘဲ(တဏှာတို့လို၊ ဥပါဒါန်တို့လို) အကုန်လုံး ဝိုင်း၍ ပြခဲ့သော် နောင်လာနောက်သားတို့က အထင်မှားသွားနိုင် စရာရှိ၏။ "ဥပါဒါနပစ္စယာ ကမ္မဘဝေါ"ဟူ၍ ဘုရားဟောတော်မူ လေသလောဟု ထင်မှားသွားနိုင်၏။ ထင်မှားသွားလျှင် "ဥပါဒါန ပစ္စယာ ဘဝေါ"ဟူသော မူရင်းပျောက်ကွယ်သွားမည်။

ထို့ကြောင့် မူရင်းဘဝလည်း မပျောက်ရအောင်၊ ကမ္မဆိုတဲ့ ဂုဏ်ထူးပုဒ်လည်း ပေါ်လွင်အောင် ကမ္မဘဝဟူ၍ ရေးသားဖော်ပြထားကြသည်။ ဟအက္ခရာ၊ သို့မဟုတ် ထဆင်ထူးအက္ခရာတို့၌လည်း သွင်း၍ပြနိုင်၏။

ထို့အတူ ဥပပတ္တိဘဝကိုလည်း ဂုဏ်ထူးပုဒ်ပေါ်အောင် တစ်ဘက်တွင် ဥပပတ္တိ၊ တစ်ဘက်တွင် ဘဝသွင်း၍ ပြနိုင်ပါ၏။ သို့သော် ထိုစတုတ္ထအကွက်၌ လျဉ်းပါးစရာမလို၍ မသွင်းဘဲ ပြထားသည်။

**ဘဝပစ္စယာ ဇာတိ**

"ဇာတိ"ဟူသည် ထိုထိုဘဝ၌ ဝိပါက်ဝိညာဏ်နှင့် ကမ္မဇရုပ်တို့၏ ဖြစ်ပေါ်ခြင်းကို ဆိုလို၏။ ဥပမာ-လူ့ဘုံ၌ တိဟိတ်ပုဂ္ဂိုလ်တွင် မဟာဝိပါက် ပဌမစိတ်ဟူသော ဝိညာဏ်၊ ထိုဝိညာဏ်နှင့်ယှဉ်သော စေတသိက်နာမ်၊ အတူဖြစ်သော ကမ္မဇကလာပ် ၃ စည်းသည် ပဌမဆုံး ဖြစ်၏။

ထိုဝိညာဏ်နာမ်ရုပ်တို့၏ တစ်ဘဝ၌ ပဌမဆုံးဥပဒ်မှုကို "ဇာတိ"ဟူ၍ လည်းကောင်း၊ "ပဋိသန္ဓေနေခြင်း"ဟူ၍လည်းကောင်း ခေါ်ဆိုရသည်။

အခြားဘုံများ၌လည်း ထိုက်သင့်သလို နာမ်ရုပ်တို့၏ ပဌမဆုံးဖြစ်မှုကို "ဇာတိ"ဟူ၍ လည်းကောင်း၊ "ပဋိသန္ဓေနေခြင်း" ဟူ၍လည်းကောင်း ခေါ်ဆိုရသည်။

## ဇာတိပစ္စယာ ဇရာမရဏံ

ဇာတိပဋိသန္ဓေနေမှု ရှိနေခဲ့လျှင် ဇရာမရဏ-အိုရ သေရမည်ကား မုချဖြစ်တော့၏။ ထို့ပြင် အချို့ပုဂ္ဂိုလ်တို့မှာ သောက၊ ပရိဒေဝ စသည်လည်း ဖြစ်ရပေဦးမည်။

ဤဒေသနာတော် ပဋိစ္စသမုပ္ပါဒ်၌ "အဝိဇ္ဇာပစ္စယာ သင်္ခါရာ"ဟူ၍ အဝိဇ္ဇာကို ရှေးဦးစတင်ဟောကြားထား၏။

နောက်ဆုံး၌မူ "ဇာတိပစ္စယာ ဇရာမရဏံ၊ သောက ပရိဒေဝ၊ ဒုက္ခ ဒေါမနဿ၊ ဥပါယာသာ သမ္ဘဝန္တိ"ဟူ၍ သောက စသော ငါးပါးကို အဆုံးသတ်ထားသည်။

ဤသို့ အဝိဇ္ဇာကို အဦးဆုံးထား၍ ဟောသောကြောင့် "အဝိဇ္ဇာကတော့ အကြောင်းမရှိဘဲ ဖြစ်သလော"ဟု စောဒနာကြ၏။ အဖြေမှာ အဝိဇ္ဇာ၌လည်း အကြောင်းတရားရှိသည်သာ။

## အဝိဇ္ဇာ၏အကြောင်းတရားများ

အကျယ်ချဲ့၍ ဖြေပါဦးအံ့။ သောက၊ ဒေါမနဿ၊ ဥပါယာသတို့သည် အကုသိုလ်စိတ် ဒေါသမူဒွေး၌ ယှဉ်သော တရားများဖြစ်ကြ၏။ သို့ဖြစ်၍ သောကစသည်တို့ဖြစ်လာလျှင် အကုသိုလ်စိတ်တွေ ဖြစ်နေပြီဟု သိနိုင်တော့၏။

အကုသိုလ်စိတ်တွေ ဖြစ်နေပြီဆိုလျှင်လည်း အကုသိုလ်စိတ် ၁၂ ပါးလုံးမှာ အမြဲပါနေကျဖြစ်တဲ့ မောဟစေတသိက်လည်း

ပါဝင်နေလေပြီ။ မောဟဆိုတာ တစ်ခြားမဟုတ်၊ "အဝိဇ္ဇာ"ပင် တည်း။

ထို့ကြောင့် သောက၊ ဒေါမနဿ၊ ဥပါယာသတို့ဖြစ်တိုင်း အဝိဇ္ဇာလည်း အမြဲယှဉ်လျက်ပါသည်ဟု သိနိုင်လေပြီ။

တစ်ဖန် ပရိဒေဝဟူသော ငိုကြွေးမှုလည်း အဝိဇ္ဇာမကင်းတဲ့သူများ၌သာ ဖြစ်လေ့ရှိကြ၏။ ထို့ပြင် ဒုက္ခဖြစ်၍ ဆင်းရဲသည့် အခါမှာလည်း ဆင်းရဲသည့်အတွက် စိတ်မသက်သာတဲ့ ဒေါမနဿနှင့် ဥပါယာသတို့ပါ ဆက်လက်ဖြစ်ပေါ်တတ်ကြသည်။

ဤသို့လျှင် သောက၊ ပရိဒေဝ၊ ဒုက္ခ၊ ဒေါမနဿ၊ ဥပါယာသတို့ ဖြစ်ပေါ်တိုင်း အကုသိုလ်စိတ်များ ဖြစ်ကြ၍ အကုသိုလ်စိတ်ဖြစ်တိုင်း အဝိဇ္ဇာလည်း တစ်ပါးတည်းပါဝင်နေကြောင်း သိနိုင်လေတော့သည်။

သောက၊ ပရိဒေဝ စသည်တို့ ဖြစ်ပေါ်ကြရာ၌ "ဇာတိပစ္စယာ သောကပရိဒေဝ ဒုက္ခဒေါမနဿုပါယာသာ သမ္ဘဝန္တိ"အရ ဇာတိကြောင့် သောက ပရိဒေဝ-စသည်ဖြစ်ရ၏ ဟု ဆိုသော်လည်း ဇာတိမှာ မကင်းစကောင်းသော အကြောင်းဝေးသာ ဖြစ်သည်။

သောက၊ ပရိဒေဝ-စသည်တို့ဖြစ်ဖို့ရာ အနီးကပ်ဆုံး အကြောင်းရင်း အစစ်မှာကား အာသဝတရားများသာ ဖြစ်ကြ၏။ ပုံစံ သာကေဖြင့် ပြပေအံ့။

## ကာမာသဝကြောင့် သောကစသည်ဖြစ်ပုံ

"ကာမတော ဇာယတေ သောကော"နှင့်အညီ ချစ်ခင်စုံမက် နှစ်သက်တတ်သော ကာမာသဝကြောင့် သောက စသည်ဖြစ်ရ၏။ အလွန့်အလွန် ချစ်ခင်သူတစ်ယောက်ပျက်စီးသောအခါ သောက ပရိဒေဝ စသည်တို့ အလွန်အမင်း ပြင်းပြစွာ ဖြစ်ရပုံကို ထောက်ဆ၍ သိနိုင်ပါသည်။

## ဘဝါသဝကြောင့် သောကစသည်ဖြစ်ပုံ

အလွန့်အလွန် အသက်ရှည်လှသော နတ်၊ ဗြဟ္မာကြီးများသည် သူတို့ကိုယ်သူတို့ "မြဲနေသည်"ဟု ထင်ခဲ့ကြ၏။ သို့သော် မြတ်စွာဘုရား၏ အနိစ္စ၊ ဒုက္ခ၊ အနတ္တ တရားများကို နာကြရသောအခါ သူတို့၏ ဘဝများနှင့် ဘုံဗိမာန်များ မမြဲပုံကို သိကြရလေ၏။ ထိုသို့ သိကြပြီးလျှင် လွန်စွာကြောက်ရွံ့ထိတ်လန့်လျက် ဒေါသ ဒေါမနဿများ ဖြစ်ကြရလေသည်။

## ဒိဋ္ဌာသဝကြောင့် သောကစသည်ဖြစ်ပုံ

ဒိဋ္ဌာသဝဖြင့် "ရုပ်နာမ်တရားတွေမြဲတယ်"လို့ အချို့ပုဂ္ဂိုလ်များက ယူစွဲကြကုန်၏။ သို့သော်လည်း နောင်သောအခါတွင် ရုပ်နာမ်တရားတွေ မမြဲမှုတို့ကို တွေ့ကြရသောအခါ သောက၊ ပရိဒေဝ စသည် ဖြစ်ကြရလေသည်။

## အဝိဇ္ဇာသဝကြောင့် သောကစသည်ဖြစ်ပုံ

အဝိဇ္ဇာ မကင်းတဲ့သူများသည် အဝိဇ္ဇာသဝကြောင့် ဒုက္ခနှင့် ဒေါသမူ၌ ယှဉ်သော ဒေါမနဿဝေဒနာများကို ခံစားကြရလေသည်။

ဤသို့လျှင် အာသဝတရားတို့ကြောင့် သောကစသည်တို့ဖြစ်ရ၏။ သောက စသည်တို့ဖြစ်ရလျှင် အဝိဇ္ဇာလည်း ပါဝင်လာလေပြီ။

ထို့ကြောင့် အဝိဇ္ဇာ၏ အကြောင်းရင်းမှာ အာသဝတရား ၄ ပါးသာလျှင် ဖြစ်၏။

## အာသဝ သမုဒယာ အဝိဇ္ဇာ သမုဒယော

သို့ဖြစ်၍ အရှင်သာရိပုတ္တရာ ကိုယ်တော်မြတ်ကြီးက မူလပဏ္ဏာသ ပါဠိတော် သမ္မာဒိဋ္ဌိသုတ်တွင် "အာသဝသမုဒယာ အဝိဇ္ဇာ သမုဒယော"ဟူ၍ ဟောတော်မူခြင်း ဖြစ်လေသည်။

(အာသဝသမုဒယာ-အာသဝတရားတွေဖြစ်ပေါ်ခြင်းကြောင့်၊ အဝိဇ္ဇာသမုဒယော-အဝိဇ္ဇာ၏ဖြစ်ပေါ်ခြင်းသည်၊ ဟောတိ၊ ဖြစ်၏)

မြတ်စွာဘုရား သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်မှာ သီတင်းသုံးတော်မူခိုက် ဖြစ်သည်။ တစ်နေ့တွင် အရှင်သာရိပုတ္တရာ ကိုယ်တော်ကြီး တရားဟောခွင့်ရ၏။ သမ္မာဒိဋ္ဌိသုတ်ကို ဟောတော်မူသည်။

ဤကဲ့သို့ အရှင်သာရိပုတ္တရာ ဟောကြားတော်မူသော မူလပဏ္ဏာသ ပါဠိတော်ကျမ်းကြီးများကို အတုယူပြီးလျှင် သင်္ဂြိုဟ်ကျမ်းကလေးလည်း "အာသဝါနံ သမုပ္ပါဒါ၊ အဝိဇ္ဇာစ ပဝတ္တတိ" ဟု နောက်ကလိုက်၍ ဆိုရလေ၏။

(အာသဝါနံ-အာသဝတရားတို့၏၊ သမုပ္ပါဒါ-ဖြစ်ပေါ်ခြင်းကြောင့်၊ အဝိဇ္ဇာ စ-အဝိဇ္ဇာသည်လည်း၊ ပဝတ္တတိ-ဖြစ်ရပြန်လေ၏။ အပြည့်အစုံ ဖော်ပြရလျှင် အောက်ပါအတိုင်း ဖြစ်သည်)။

ဇရာမရဏ မုစ္ဆာယ၊
ပီဠိတာန မဘိဏှသော။
အာသဝါနံ သမုပ္ပါဒါ၊
အဝိဇ္ဇာစ ပဝတ္တတိ။

ဇရာမရဏ မုစ္ဆာယ-အိုခြင်း သေခြင်း တွေဝေမိန်းမောခြင်း သောက စသောတရားပေါင်းသည်၊ အဘိဏှသော၊ မပြတ်မလတ်၊ ပီဠိတာနံ-နှိပ်စက်အပ်သော သူတို့၏ (သန္တာန်၌)၊ အာသဝါနံ - အာသဝတရားတို့၏၊ သမုပ္ပါဒါ-ဖြစ်ပေါ်ခြင်းကြောင့်၊ အဝိဇ္ဇာစ-အဝိဇ္ဇာသည်လည်း၊ ပဝတ္တတိ-ဖြစ်ပေါ် ရပြန်၏။

(သင်္ဂြိုဟ်ပစ္စည်းပိုင်း)

(ဆောင်) အာသဝကြောင့်၊ သောကစသည်၊
ငါးလီခပင်း၊ ဖြစ်တုံလျှင်းက၊

မကောင်းသင့်ရာ၊ အဝိဇ္ဇာလည်း၊
ပါဝင်ပြီးမို့၊ ဆိုနည်းမထောင့်၊
အာသဝကြောင့်သာ၊ အဝိဇ္ဇာလည်း၊
ဖြစ်သတည်းဟု၊ ကျမ်းကြီးဆိုတိုင်း၊
သဂြိုဟ်လှိုင်းသည်၊ ကသိုဏ်း
ထင်အောင်ရှုဖို့တည်း။

(အခြေပြုသဂြိုဟ်)

## အာသဝ၏ အကြောင်းတရားများ

ဤဆိုခဲ့ပြီး စကားစဉ်အရ အဝိဇ္ဇာ၏ အကြောင်းရင်းသည် အာသဝတရားများဟု သိရ၏။ သို့ဖြစ်လျှင် အာသဝ၏ အကြောင်းတရားများကော အဘယ်အရာတွေလဲဟု ထပ်မံမေးဖွယ်ရှိပြန်သည်။

အဖြေကား-အာသဝတရားတို့သည် တဏှာ၊ ဥပါဒါန်နှင့် အကုသလ ကမ္မပထ(ကမ္မဘဝ)တို့၌ ထိုက်သည့်အားလျော်စွာ ပါဝင်နေကြလေပြီ။

ထို့ကြောင့် တဏှာ၊ ဥပါဒါန်၊ ကမ္မဘဝတို့ ဖြစ်ကြခြင်းသည် ပင်လျှင် အာသဝတရားတို့၏ အကြောင်းတရားများဟု ဆိုနိုင်ကြလေပြီ။

ထို့ပြင် ထို၏ ရှေ့ဘက်၊ ရှေ့ဘက်သို့လည်း အဆင့်ဆင့် လိုက်ပါက အကြောင်းတရားတွေ တွေ့ကြရဦးမည်ဖြစ်၍ (အကြောင်းကြောင့် အကျိုးဖြစ်၊ အကြောင်းကြောင့် အကျိုးဖြစ်) အဝိုင်းပတ်လည်ကြီးဖြစ်နေသည်ကို ဆင်ခြင်သိပါလေ။

**အဝိဇ္ဇာကို ဘာလို့ အစထားရသလဲ**

ယခုအတိုင်းဆိုလျှင် "အကြောင်းကြောင့်" အကျိုးဖြစ်နေ" သော အဝိုင်းခွေကြီးသာ ဖြစ်နေသည်ဟု သိရပါ၏။ သို့ဖြစ်လျှင် အဘယ့်ကြောင့် အင်္ဂါ ၁၂ ပါးတွင် အဝိဇ္ဇာကို အစဦးဆုံးထား၍ ဟောကြားရပါသလဲ။

ဖြေ - အဝိဇ္ဇာသည် ဝဋ်တရားအပေါင်းတွင် ဦးခေါင်းပမာ လွန်စွာ အရေးကြီး၏။

ထိုထို သင်္ခါရကို ပြုကြရာ၌ အဝိဇ္ဇာဖုံးလွှမ်းထားသည့် အတွက် တဏှာဖြင့် မက်မော၍ ပြုမိကြခြင်းဖြစ်သည်။ အဝိဇ္ဇာက အပြစ်တွေကို မမြင်နိုင်အောင် ဖုံးကာထားသောကြောင့် တဏှာက တွယ်တာ မက်မောမိလေသည်။

ဤ ၂ ပါးသည် ဝဋ်တရားတွင် အရေးကြီး၏။ အရေးကြီးသော ဤ (၂)ပါးတွင်လည်း အဝိဇ္ဇာက သာလွန်၍ အဓိကပြဋ္ဌာန်း နေပြန်၏။

ထို့ကြောင့် အင်္ဂါ ၁၂ ပါးတွင် အဝိဇ္ဇာကို အစဦးဆုံးထား၍ ဟောကြားတော်မူခြင်းဖြစ်လေသည်။

မှတ်ချက်။ ။ ဖြစ်စဉ်မှာ အဝိဇ္ဇာက အစဦးဆုံးဖြစ်သည်ဟု ဆိုလိုသည်မဟုတ်။ အဝိဇ္ဇာဖြစ်ဖို့ရာလည်း ရှေ့ဘက်က အာသဝတရားအကြောင်းများ ရှိသေးသည်။ ထို့ထက် ထို့ထက် ရှေ့ဘက်ကလည်း အဆင့်ဆင့် အကြောင်းတရားများ ရှိသေးသည် မဟုတ်ပါလောဟု ဆိုလို၏။

**ဝဋ်သုံးပါးဖြင့် ခွဲခြားသော်**

ဝဋ္ဋသဒ္ဒါသည် စက်ဘီးများလို လှည်းဘီးများလို ချာချာလည်ခြင်းအနက်ကိုဟော၏။ သို့ဖြစ်၍ "ဝဋ္ဋ=လုံးခြင်း၊ လည်ခြင်း၊ လှည့်ခြင်း၊ ဝိုင်းခြင်း၊ ပတ်ခြင်း၊ ခွေခြင်း"ဟု အဓိပ္ပါယ်ရသည်။

လောဘ၊ ဒေါသ၊ မောဟ စသောတရားတို့သည် သတ္တဝါတို့၏ စိတ်ကို ညစ်နွမ်းစေတတ်ကြ၏။ ထို့ကြောင့် သူတို့ကို "ကိလေသ"ဟု ခေါ်ရသည်။

(က) ပဋိစ္စသမုပ္ပါဒ် အင်္ဂါ ၁၂ ပါးတွင် အဝိဇ္ဇာဆိုတဲ့ မောဟ၊ တဏှာ၊ ဥပါဒါန်ဆိုတဲ့ လောဘတို့သည် သတ္တဝါတို့၏ စိတ်ဓာတ်ကို ညစ်နွမ်းစေကြပြီးလျှင် ဘဝသံသရာထဲ၌ သတ္တဝါတို့ကို လှည့်ပေးကြ၏။

(ခ) ပဋိစ္စသမုပ္ပါဒ် အင်္ဂါ ၁၂ ပါးတွင် သင်္ခါရနှင့် ကမ္မဘဝတို့သည် လောကီကုသိုလ်၊ အကုသိုလ်စေတနာ ၂၉ ပါးတို့ ဖြစ်ကြ၏။ ကံတရားများချည်း ဖြစ်ကြသည်။ (ကမ္မ) ကံတရားများ အနေဖြင့် သတ္တဝါတို့ကို ဘဝသံသရာထဲ၌ လည်စေသောကြောင့် "ကမ္မဝဋ်"ဟု ဆိုရသည်။

(ဂ) ပဋိစ္စသမုပ္ပါဒ် အင်္ဂါ ၁၂ ပါးတွင် ဒုတိယအကွက်ထဲမှ ဝိညာဏ်၊ နာမ်ရုပ်၊ သဠာယတန၊ ဖဿ၊ ဝေဒနာဆိုတဲ့ ၅ မျိုးနှင့် စတုတ္ထအကွက်ထဲမှ ဇာတိနှင့် ဇရာမရဏ၊ ပေါင်း ကိုယ်ထည် အင်္ဂါ ၇ ပါး၊ ထို့ပြင် တတိယအကွက်မှ ပြောင်းရွှေ့လာသော ဥပပတ္တိဘဝ၊ အားလုံး (၈)ပါးတို့သည် အကျိုးတရားများချည်းဖြစ်ကြ၏။

ဝိပါက အကျိုးတရားအနေဖြင့် သတ္တဝါတို့ကို ဘဝသံသရာထဲ၌ လည်စေကြသောကြောင့် သူတို့ကို ဝိပါကဝဋ်ဟုခေါ် ဆိုရသည်။

**ကျမ်းဂန်နှင့်ညှိ၍ စိစစ်ပြခြင်း**

ဥပါဒါန်ကြောင့် ဘဝဖြစ်ရာတွင် ဘဝ ၂ မျိုးရှိကြောင်းကို ဖော်ပြခဲ့ပြီ။ ဆိုလိုသည်မှာ ဘဝတစ်ခုကို ထက်ဝက်ခွဲလျှင် တစ်ခြမ်းက ကမ္မဘဝ၊ ကျန်တစ်ခြမ်းက ဥပပတ္တိဘဝ။ ဤသို့ ဘဝ ၂ မျိုးရှိကြောင်း ဖော်ပြခဲ့ပြီ။

ထို ၂ ခြမ်းတွင် ကမ္မဘဝအခြမ်းသည် ကမ္မဝဋ်တွင် ပါဝင်ရမည်။ ဥပပတ္တိဘဝအခြမ်းကား ဝိပါကဝဋ်တွင် ပါဝင်ရမည်။ ထို့ကြောင့် သဂြိုဟ်ကျမ်းငယ်က -

"ကမ္မဘဝ သင်္ခါတော ဘဝေကဒေသော

သင်္ခါရာစ ကမ္မဝဋ္ဋံ" ဟု ဆိုထား၏။

(ကမ္မဘဝသင်္ခါတော-ကမ္မဘဝဟု ဆိုအပ်သော၊ ဘဝေကဒေသော(ဘဝ+ဧကဒေသော)-ဘဝတစ်ခြမ်းသည်လည်းကောင်း၊ သင်္ခါရာစ-သင်္ခါရတရားတို့သည်လည်းကောင်း၊ ကမ္မဝဋ္ဋံ-ကမ္မဝဋ်မည်၏။)

ကမ္မဘဝတစ်ခြမ်းနှင့် သင်္ခါရတရားတို့သည် ကမ္မဝဋ်မည်၏။ စေတနာကံတရားတွေချည်း ရွေးကောက်ထားသည်။

ပဋိစ္စသမုပ္ပါဒ်အင်္ဂါ ၁၂ ပါးတွင် (အဝိဇ္ဇာတဏှာ ပါဒါနာစ ကိလေသဝဋ္ဋံ)အရ အဝိဇ္ဇာ၊ တဏှာ၊ ဥပါဒါန်တို့ကို ကိလေသဝဋ်အတွက် ကောက်ယူထားပြီးပြီ။

ကမ္မဝဋ်အတွက်လည်း ကမ္မဘဝတစ်ခြမ်းနှင့် သင်္ခါရတို့ကို ကောက်ယူထားပြီးပြီ။ ယခုကျန်တဲ့အရာတွေကို ဝိပါကဝဋ်အတွက် ယူရပေတော့မည်။ သို့ဖြစ်၍ သဂြိုဟ်ကျမ်းငယ်က-

"ဥပပတ္တိဘဝသင်္ခါတော ဘဝေကဒေသော အဝသေသာစ ဝိပါကဝဋ္ဋံ"ဟု ဆိုထား၏။

(ဥပပတ္တိဘဝသင်္ခါတော-ဥပပတ္တိဘဝဟု ဆိုအပ်သော၊ ဘဝေကဒေသော (ဘဝ+ဧကဒေသော)ဘဝတစ်ခြမ်းသည်လည်း ကောင်း၊ အဝသေသာစ-ကျန်တဲ့ အင်္ဂါရပ်တွေ အကုန်လုံးသည် လည်းကောင်း၊ ဝိပါကဝဋ္ဋံ-ဝိပါကဝဋ္ဋ်မည်၏။)

"ကျန်တာတွေ" ဟူသည်ကား ဒုတိယအကွက်ထဲမှ ဝိညာဏ်၊ နာမ်ရုပ်၊ သဠာယတန၊ ဖဿ၊ ဝေဒနာနှင့် စတုတ္ထ အကွက်ထဲမှ ဇာတိနှင့် ဇရာမရဏတို့ ဖြစ်ကြ၏။ ဘဝတစ်ခြမ်း ဖြစ်တဲ့ ဥပပတ္တိဘဝနှင့် ပေါင်းသော် "ဝိပါကဝဋ္ဋ် ၈ ပါး" ဖြစ်တော့ သည်။

**ဒေသနာအစဉ်ကို ဖျက်သည်မဟုတ်**

(က) ဝိပါကဝဋ္ဋ် (၈)ပါးရေတွက်ကြရာ၌ စက်ဝိုင်းကြီးအတွင်း ဒုတိယအကွက်ထဲမှ ဝိညာဏ်၊ နာမ်ရုပ်၊ သဠာယတန၊ ဖဿ၊ ဝေဒနာလို့ ငါးပါးရေတွက်ပြီးနောက် စတုတ္ထအကွက်ထဲမှ ဇာတိ၊ ဇရာမရဏဟူ၍ ရေတွက်ကြ၏။ ပြီးမှ နောက်တိုးလာသော ဥပပတ္တိ ဘဝကိုပါ ထည့်၍ ဝိပါကဝဋ္ဋ်(၈)ပါး ပြည့်ကြောင်း ဖော်ပြကြသည်။

(ခ) အချို့ပုဂ္ဂိုလ်များကမူ ဒုတိယအကွက်ထဲမှ ငါးပါးကို ရေတွက် ပြီးနောက် စတုတ္ထအကွက်ထဲမှ တရားတို့ကို ရေတွက်ကြရာ၌ ဇာတိ၊ "ဥပပတ္တိဘဝ" ဆိုတာကလည်း "ဖြစ်" ဟူ၍ပင် အဓိပ္ပာယ် ရသည်။ သို့ဖြစ်၍ သဘောတူချင်းတွဲကပ်ထားလျက် ရေတွက်ပြ

ခြင်းဖြစ်၏။ ပြီးမှ "ဇရာမရဏ"ကို ထည့်၍ (၈)ပါးပြည့်အောင် ဖော်ပြခြင်းဖြစ်သည်။

ဘုရားဟောဒေသနာတော်အစဉ်ကို ဖျက်သည်မဟုတ်။ ဤနေရာ၌ (၈)ပါးပြည့်အောင် သရုပ်ရေတွက်ပြခြင်းက အဓိက ဖြစ်၏။ ထို့ကြောင့် မည်သူ့ကိုအမှား၊ မည်သူ့ကို အမှန်ဟု ဆိုရန်ပင် မရှိချေ။ ကိုယ့်ဆန္ဒနှင့် ကိုယ်သန်ရာ သန်ရာဆိုကြလေ။

**ပဋိစ္စသမုပ္ပါဒ်တွင် ပါဝင်သောအချက်များ**

ပဋိစ္စသမုပ္ပါဒနယော -

တတ္ထ တယော အဒ္ဓါ၊ ဒွါဒသင်္ဂါနိ၊

ဝီသတာကာရာ၊ တိသန္ဓိ၊ စတုသင်္ခေပါ၊

တီဏိ ဝဋ္ဋာနိ၊ ဒွေမူလာနိစ ဝေဒိတဗ္ဗာနိ။

ပဋိစ္စသမုပ္ပါဒ် အထက်ပါအတိုင်း သင်္ဂြိုဟ်ကျမ်းငယ်က ဖော်ပြထားသည်။

၁။ တယောအဒ္ဓါ = ကာလ ၃ ပါး ပါရှိ၏။

၂။ ဒွါဒသင်္ဂါနိ = အင်္ဂါ ၁၂ ပါး ပါရှိ၏။

၃။ ဝီသတာကာရာ = ခြင်းရာ ၂၀ လည်း ပါရှိ၏။

၄။ တိသန္ဓိ = အစပ် ၃ ပါးလည်း ပါရှိ၏။

၅။ စတုသင်္ခေပါ = အလွှာ ၄ ခုလည်းပါရှိ၏။

၆။ တီဏိဝဋ္ဋာနိ = ဝဋ် ၃ ပါးလည်း ပါရှိ၏။

၇။ ဒွေမူလာနိစ ဝေဒိတဗ္ဗာနိ = မူလ ၂ ဖြာလည်း ပါရှိ၏။

၈။ ထို့ပြင် ဒေသနာတော်အစဉ်ကပင် သစ္စာ ၂-မျိုးလည်း ပါဝင်နေသည်ကို တွေ့ကြရမည်ဖြစ်၏။

သို့ဖြစ်၍ ယင်းတို့ကို မှတ်မိအောင် အောက်ပါအတိုင်း လင်္ကာသီကုံးထားတော်မူကြသည်။

(ဆောင်)မူလနှစ်ဖြာ၊ သစ္စာနှစ်ခု၊
လေးခုအလ္ဟာ၊ အင်္ဂါတစ်ဆယ့်နှစ်ပါး၊
တရားကိုယ်များနှင့်၊ သုံးပါးအစပ်၊
နှစ်ရပ်မူလ၊ ဝဋ်သုံးဝနှင့်၊ ကာလသုံးဖြာ၊ ခြင်းရာနှစ်ဆယ်၊ ဤရှစ်သွယ်ကို၊ အလွယ်ကျက်မှတ်၊ သိစေအပ်သည်. . .
သံသရာမှ လွတ်ကြောင်းတည်း။



## ဒေသနာကို အစခွပမာ တည်ဆောက်

ဖော်ပြခဲ့သောစကားစဉ်အရ ပဋိစ္စသမုပ္ပါဒ်ဒေသနာတော်တွင် အမျိုးအနွယ် (၈)သွယ် ပါဝင်နေသည်ကို စိစစ်ကြရ၊ ကောက်ယူကြရပေတော့မည်။ သို့ဖြစ်၍ ဦးစွာပထမ စဉ်တန်းနေသော ပဋိစ္စသမုပ္ပါဒ် ဒေသနာတော်ကို လက်ယာရစ်၍ အဝိုင်းလိုက်ခွေလိုက်ပါ။

ထို့နောက် အဝိုင်းကို မျဉ်း ၂ ကြောင်း ကန့်လန့်ဖြတ်ဆွဲ၍ ၄ စိတ် စိတ်ပါ။ ပြီးလျှင် လက်ယာဘက်က အထက်ပိုင်းအကွက်ကို နံပါတ်(၁)ဟူ၍ သတ်မှတ်၊ လက်ယာဘက်က အောက်ပိုင်းအကွက်ကို နံပါတ် (၂)ဟူ၍ သတ်မှတ်။ လက်ဝဲဘက်က အောက်ပိုင်းအကွက်ကို နံပါတ် (၃)ဟူ၍ သတ်မှတ်၊ လက်ဝဲဘက်က အထက်ပိုင်းအကွက်ကို နံပါတ်(၄)ဟူ၍ သတ်မှတ်ပါ။

ထို့နောက်တွင် နံပါတ်(၁)အကွက်ထဲမှာ အဝိဇ္ဇာနှင့်သင်္ခါရ ၂ မျိုးကိုသွင်း၊ နံပါတ်(၂) အကွက်ထဲမှာ ဝိညာဏ်၊ နာမ်ရုပ်၊ သဠာယတန၊ ဖဿ၊ ဝေဒနာဆိုတဲ့ ၅ မျိုးကို သွင်းပါ။

နံပါတ် (၃) အကွက်ထဲမှာ တဏှာ၊ ဥပါဒါန်၊ ကမ္မဘဝကို သွင်း။(ဘဝ ၂ မျိုးရှိရာတွင် ကမ္မဘဝကိုသာ ယူထားလိုက်သည်။) နံပါတ် (၄)အကွက်ထဲမှာ ဇာတိ၊ ဇရာ မရဏ ၂ မျိုးအပြင် နံပါတ် (၃)အကွက်မှ ပို့လိုက်သော ဥပပတ္တိဘဝပါ သွင်းထည့်ထား။

**ပဋိစ္စသမုပ္ပါဒ်အင်္ဂါများတွင် အသွယ်(၈)သွယ်ရှိပုံ အမေးနှင့်အဖြေ**

(ဤသို့ အမေး အဖြေပြုလုပ်သောအခါ ပဋိစ္စသမုပ္ပါဒ် စက်ဝိုင်းကြီးကို အာရုံထဲတွင် မြင်ထားပါ။)

**မေး** -စက်ဝိုင်းကြီးထဲ၌ 'မူလနှစ်ဖြာ'ဆိုတာ ဘယ်ဟာနဲ့ဘယ်ဟာလဲ။

**ဖြေ**-အဝိဇ္ဇာနှင့်တဏှာဖြစ်ပါသည်။ (၁)အကွက်မှ အဝိဇ္ဇာနှင့် (၃)အကွက်မှ တဏှာကို ဆိုလို၏။ စက်ဝိုင်းကြီးအတွင်း အလယ် လမ်းကြောင်းပေါ်ရှိ စာလုံးကြီးများကို သတိပြုပါ။

**မေး**-သစ္စာနှစ်ခုဆိုတာ ဘယ်ဟာတွေလဲ။

**ဖြေ**-သမုဒယသစ္စာ၊ ဒုက္ခသစ္စာတို့ဖြစ်ပါသည်။ (အတွင်းစက်ဝိုင်း ကလေး၏ အပြင်ဘက်တွင်ကပ်၍ (၁)ကွက်မှစပြီး အစဉ်အတိုင်း ရေးထားသည့်အတိုင်း လက်ယာရစ်၍ထောက်ပါ။ ခေါင်းစီး စာတမ်းမျှသာ ဖြစ်သေး၏။ အလယ်လမ်းကြောင်းပေါ်ရှိစာလုံးတို့ ကို ခေါင်းစီးက ညွှန်ပြသည့်အတိုင်း သိမှတ်ပါ။)

**မေး**- လေးခုအလွှာဆိုတာ ဘယ်ဟာတွေလဲ။

**ဖြေ**- အတိတ်အကြောင်းတစ်လွှာ၊ ပစ္စုပ္ပန်အကျိုးတစ်လွှာ၊ ပစ္စုပ္ပန် အကြောင်းတစ်လွှာ၊ အနာဂတ်အကျိုးတစ်လွှာတို့ ဖြစ်ပါသည်။

(စက်ဝိုင်းထဲတွင် ရေးထားသည့်အတိုင်း လက်ယာရစ်၍ ထောက်ပြီး ကောက်ယူပါ။ ခေါင်းစီးစာတမ်းမျှသာဖြစ်သေး၏။

အလယ်လမ်းကြောင်းပေါ်ရှိ စာလုံးကြီးတို့ကို ခေါင်းစီးညွှန်ပြသည့် အတိုင်း သိမှတ်ပါ။

**မေး**- အင်္ဂါ တစ်ဆယ့်နှစ်ပါးဆိုတာ ဘယ်ဟာတွေလဲ။

**ဖြေ**- အဝိဇ္ဇာ၊ သင်္ခါရ။ ။ဝိညာဏ်၊ နာမ်ရုပ်၊ သဠာယတန၊ ဖဿ၊ ဝေဒနာ။ ။တဏှာ၊ ဥပါဒါန်၊ ကမ္မဘဝ။ ။ဇာတိ၊ ဇရာမရဏ။

**မေး**- သုံးပါးအစပ်ဆိုတာ ဘယ်ဟာတွေလဲ။

**ဖြေ**- သင်္ခါရနှင့် ဝိညာဏ်ကြားတစ်စပ်၊ ဝေဒနာနှင့်တဏှာကြား တစ်စပ်၊ ကမ္မဘဝနှင့် ဇာတိကြား တစ်စပ်တို့ဖြစ်ပါသည်။

(စက်ဝိုင်းကြီးတွင် အလယ်လမ်းကြောင်းပေါ်ရှိ စာလုံးကြီး တို့၏ အစပ်ကို သတိပြုရာ၏။)

**မေး**- နှစ်ရပ်မူလဆိုတာ ဘယ်ဟာတွေလဲ။

**ဖြေ**- အဝိဇ္ဇာနှင့် တဏှာပင်ဖြစ်ပါသည်။

(နှစ်ရပ်မူလနှင့် မူလနှစ်ဖြာအတူတူပင်ဖြစ်၏။ ထို့ကြောင့် အဝိဇ္ဇာနှင့် တဏှာကိုပင် ကောက်ယူရပါမည်။ အာရုံအပြောင်း အလွဲ ဖြစ်သွားအောင် ပြောင်းပြန်အနေနဲ့ (တဏှာနဲ့ အဝိဇ္ဇာ)ဟု ကား ပြောနိုင်ပါ၏။)

"မူလနှစ်ဖြာ"ဟု ဆိုထားပြီး ကောက်ယူထားပြီး ဖြစ်ပါလျက် "နှစ်ရပ်မူလ"ဟု ထပ်မံဆိုထားသော်လည်း အသစ်ထပ်မံ ကောက် ယူဖွယ်မရှိ။

အလယ်ခေါင်တည့်တည့် စက်ဝိုင်းကလေးအတွင်းမှ (အဝိဇ္ဇာနှင့်တဏှာ)ကို သွား၍ မကောက်ပါနှင့်။ ယင်း ၂ ပါးတို့က အာသဝ ဝင်ရိုးချိုးရာတွင် လှည်းဘီးလုပ်ရာ၌ ပဒေါင်းလုပ်ဖို့ရန် ထည့်ထားခြင်းမျှသာ ဖြစ်သည်။)

**မေး**- "ဝဋ်သုံးဝ" ဆိုတာ ဘယ်ဟာတွေလဲ။

**ဖြေ**- ကိလေသဝဋ်၊ ကမ္မဝဋ်၊ ဝိပါကဝဋ်တို့ ဖြစ်ပါသည်။ (စက်ဝိုင်းကြီး၏ (၁)အကွက် နှုတ်ခမ်းသားတွင် ရေးထားသော ခေါင်းစီးများနှင့် (၄)အကွက် နှုတ်ခမ်းသားတွင် ရေးထားသော ခေါင်းစီးများဖြင့် ညွှန်ပြ၏။)

**မေး**- ကိလေသဝဋ် ဘယ်နှစ်ပါးရှိသလဲ။ ရေတွက်ပြပါ။

**ဖြေ**- ကိလေသဝဋ် သုံးပါးရှိပါသည်။ ၎င်းတို့ကား အဝိဇ္ဇာ၊ တဏှာ၊ ဥပါဒါန်တို့ဖြစ်ပါသည်။ (ကြိုးကလေးဖြင့် ဆက်သွယ်ပြထားသော (၁)အကွက်မှ အဝိဇ္ဇာနှင့် (၃)အကွက်မှ တဏှာ၊ ဥပါဒါန်တို့ကို ကောက်ယူပါ။)

**မေး**-ကမ္မဝဋ်ရော ဘယ်နှစ်ပါးရှိသလဲ။ ရေတွက်ပြပါ။

**ဖြေ**-ကမ္မဝဋ် နှစ်ပါးရှိပါသည်။ ၎င်းတို့ကား သင်္ခါရနှင့် ကမ္မဘဝ တို့ ဖြစ်ပါသည်။ (ကြိုးကလေးဖြင့် ဆက်သွယ်ပြထားသော (၁)အကွက်မှ သင်္ခါရနှင့် (၃)အကွက်မှ ကမ္မဘဝတို့ကို ကောက်ယူပါ။)

မေး-ဝိပါကဝဋ်ကရော ဘယ်နှစ်ပါးရှိသလဲ။ ရေတွက်ပြပါ။
ဖြေ- ဝိပါကဝဋ် ရှစ်ပါးရှိပါသည်။ ၎င်းတို့ကား (ကိလေသဝဋ် ၃ ပါး၊ ကမ္မဝဋ် (၂)ပါးယူပြီးမှ ကျန်သော (၂)ကွက်ထဲမှ ဝိညာဏ်၊ နာမ် ရုပ်၊ သဠာယတန၊ ဖဿ၊ ဝေဒနာ၊ (၅)ပါးနှင့် (၄)ကွက်ထဲမှ ဇာတိ၊ ဇရာမရဏ (၂)ပါးအပြင် နောက်ထပ်တိုးလာသော ဥပပတ္တိ ဘဝပါ အားလုံးစုစုပေါင်း (၈)ပါး ဖြစ်ပါသည်။
မေး- ဤပဋိစ္စသမုပ္ပါဒ်တွင် ကာလ ဘယ်နှစ်ပါးပါသလဲ၊ ရေတွက်ပြပါ။
ဖြေ-ကာလသုံးပါး ပါပါသည်။ ၎င်းတို့ကား လွန်လေပြီးသော အတိတ်ကာလ၊ ယခုဖြစ်ဆဲ ပစ္စုပ္ပန်ကာလ၊ နောင်ဖြစ်လတ္တံ့ အနာဂတ်ကာလတို့ဖြစ်ပါသည်။ (စက်ဝိုင်းကြီးတွင် ရေးပြထားသည့် အတိုင်း လိုက်လံထောက်ပြပါ။ ခေါင်းစီးစာတမ်းမျှသာ ဖြစ်သေး၏။ အလယ်လမ်းကြောင်းပေါ်ရှိ စာလုံးကြီးတို့ကို ခေါင်းစီးက ညွှန်ပြ သည့်အတိုင်း သိမှတ်ပါ။)
မေး - အခြင်းအရာ ဘယ်နှစ်ပါးရှိသလဲ။ ရေတွက်ပြပါ။
ဖြေ - အခြင်းအရာ နှစ်ဆယ်ရှိပါသည်။ ၎င်းတို့မှာ အတိတ် အကြောင်းအခြင်းအရာငါးပါး၊ ပစ္စုပ္ပန်အကျိုးအခြင်းအရာ ငါးပါး၊ ပစ္စုပ္ပန်အကြောင်းအခြင်းအရာငါးပါး၊ အနာဂတ်အကျိုးအခြင်းအရာ ငါးပါးတို့ဖြစ်ပါသည်။

**မေး** -အတိတ်အကြောင်းအခြင်းအရာ ငါးပါးကို ကောက်ယူပြပါ။

**ဖြေ**- အတိတ်အကြောင်းအခြင်းအရာ ငါးပါးဆိုသည်မှာ အဝိဇ္ဇာ၊ သင်္ခါရ၊ တဏှာ၊ ဥပါဒါန်၊ ကမ္မဘဝတို့ဖြစ်ပါသည်။ (နံပါတ် (၁) အကွက်ထဲမှ အဝိဇ္ဇာ၊ သင်္ခါရနှင့် နံပါတ်(၃)အကွက်ထဲမှ တဏှာ၊ ဥပါဒါန်၊ ကမ္မဘဝတို့ဖြစ်သည်။)

**မေး** - ပစ္စုပ္ပန်အကျိုးအခြင်းအရာငါးပါးကို ကောက်ယူပြပါ။

**ဖြေ** - ပစ္စုပ္ပန် အကျိုးအခြင်းအရာငါးပါးဆိုသည်မှာ ဝိညာဏ်၊ နာမ်ရုပ်၊ သဠာယတန၊ ဖဿ၊ ဝေဒနာ နံပါတ် (၂)အကွက်ထဲမှ စာလုံးကြီး (၅)မျိုး ဖြစ်ပါသည်။

**မေး** - ပစ္စုပ္ပန်အကြောင်းအခြင်းအရာ ငါးပါးကို ကောက်ယူပြပါ။

**ဖြေ** - ပစ္စုပ္ပန်အကြောင်းအခြင်းအရာငါးပါးဆိုသည်မှာ တဏှာ၊ ဥပါဒါန်၊ ကမ္မဘဝ၊ အဝိဇ္ဇာ၊ သင်္ခါရတို့ဖြစ်ပါသည်။ (နံပါတ်(၃) အကွက်မှ တဏှာ၊ ဥပါဒါန်၊ ကမ္မဘဝနှင့် နံပါတ်(၁)အကွက်မှ အဝိဇ္ဇာ၊ သင်္ခါရတို့ ဖြစ်ပါသည်။)

**မေး** - အနာဂတ်အကျိုးအခြင်းအရာ ငါးပါးကို ကောက်ယူပြပါ။

**ဖြေ** - အနာဂတ်အကျိုးအခြင်းအရာငါးပါးဆိုသည်မှာ ဝိညာဏ်၊ နာမ်ရုပ်၊ သဠာယတန၊ ဖဿ၊ ဝေဒနာကို့ဖြစ်ပါသည်။ (နံပါတ်(၂) အကွက်မှ (၅)မျိုးကိုပင် ပြန်လည်ကောက်ယူပါသည်။)

မေး - အားလုံး ဘယ်နှစ်သွယ်ရှိသလဲ၊ ရေတွက်ပြပါ။

ဖြေ - အားလုံးအသွယ် (၈)သွယ်ရှိပါသည်။ ၎င်းတို့မှာ -

၁။ မူလနှစ်ဖြာက တစ်သွယ်၊

၂။ သစ္စာနှစ်ခုက တစ်သွယ်၊

၃။ လေးခုအလှာက တစ်သွယ်၊

၄။ အင်္ဂါတစ်ဆယ့်နှစ်ပါးက တစ်သွယ်၊

၅။ သုံးပါးအစပ်က တစ်သွယ်၊

၆။ ဝဋ္ဋသုံးဝက တစ်သွယ်၊

၇။ ကာလသုံးဖြာက တစ်သွယ်၊

၈။ ခြင်းရာနှစ်ဆယ်က တစ်သွယ်တို့ ဖြစ်ပါသည်။

**အထူးမှာထားချက်**

ပဋိစ္စသမုပ္ပါဒ်စက်ဝိုင်းကြီး အလယ်လမ်းကြောင်းပေါ်တွင် စာလုံးကြီး ပမာဏဖြင့် ပဋိစ္စသမုပ္ပါဒ် အင်္ဂါ ၁၂ ပါးကို ရေးပြထား၏။ ဤစာကြောင်းသည် အဓိက ပဓာနဖြစ်သည်။ ဤစာကြောင်းကို ဗဟိုမဏ္ဍိုင်ထား၍ အသွယ်(၈)ပါးရှိကြောင်း ခွဲစိတ်ဝေဖန်ရမည် ဖြစ်သည်။

ဤမူလ အလယ်စာလုံးကြီးအတန်း၏ အပြင်ဘက်က "အခြင်းအရာနှစ်ဆယ်" ကို ရွေးချယ်၍ လှည့်ပတ်ထား၏။ သင်ယူခါစ ဉာဏ်နုနယ်သော ပုဂ္ဂိုလ်များအတွက် လွယ်လွယ်ကူကူ

ကောက်ယူထောက်ပြနိုင်ရန် ကျေးဇူးတော်ရှင် မိုးကုတ်ဆရာတော်ဘုရားကြီးက စီစဉ်တင်ပြထားခြင်းဖြစ်ပါသည်။

အသွယ် (၈)သွယ်ကို ပဋိစ္စသမုပ္ပါဒ် ကိုယ်ထည်အင်္ဂါရပ်တွင် လိုက်လံရှာဖွေနေရပါက ခက်ခဲနေမည်စိုးတော်မူ၏။ သို့ဖြစ်၍ ဆရာတော်ဘုရားကြီးက ဆိုင်ရာအချက်အလက်တို့ကို အကွက်ကျကျ အသင့်ရှာဖွေရေးသား ဖော်ပြပေးထား၏။ သို့အတွက် လွယ်လွယ်ကူကူ ကောက်ယူထောက်ပြနိုင်ခြင်းဖြစ်လေသည်။

ဤကား ဝါးခွံ့အရွယ်၊ ဝါးခွံ့အဆင့်များအတွက် ကျေနပ်နှစ်သက်အောင် စနစ်တကျ စီစဉ်တင်ပြထားသော ဆရာတော်ဘုရားကြီး၏ မေတ္တာတော်ပင် ဖြစ်သည်။

## အဆင့်မြင့်လာသူတို့အတွက်

ထိုအခြေမှ တစ်ဆင့်တက်၍ ရင့်ကျက်လာသောအခါတွင်ကား ဆက်လက်လေ့လာရန်ကိုလည်း ဖော်ပြထားပါသည်။

ဤသို့ ဖော်ပြရာတွင် (က)အဘိဓမ္မာဝိဘင်းပါဠိတော်၊ ပဋိစ္စသမုပ္ပါဒဝိဘင်္ဂ၊ သုတ္တန္တဘာဇနီယမှလည်းကောင်း၊

(ခ) ယင်းပါဠိတော်ကြီး၏ အဖွင့်ဖြစ်သော သမ္မောဟဝိနောဒနီ အဋ္ဌကထာ၊ မျက်နှာ (၁၈၁ မှ ၁၈၅)အထိ ဖွင့်ဆိုချက်တို့မှလည်းကောင်း၊

(ဂ) လက်ယာတော်ရံ ပညာဉာဏ်ဇောတဒဂ် ဘွဲ့ထူးရ၊ အရှင်သာရိပုတ္တရာ ကိုယ်တော်မြတ် ဟောပြသော ပဋိသမ္ဘိဒါမဂ် ပါဠိတော်၊ မဟာဝဂ္ဂ၊ ဉာဏကထာ၊ ဓမ္မဋ္ဌိတိဉာဏနိဒ္ဒေသ၌ ဟော ပြချက်တို့မှ လည်းကောင်း၊

(ဃ) ဝိသုဒ္ဓိမဂ်အဋ္ဌကထာ၊ ပညာဘူမိနိဒ္ဒေသ၊ ပဋိစ္စ သမုပ္ပါဒ် အဖွင့်မှလည်းကောင်း အချက်အလက်တို့ကိုယူ၍ ဖော်ပြ ထားပါသည်။

## ပဋိစ္စသမုပ္ပါဒ်အမေးအဖြေ

**မေး** - "မူလနှစ်ဖြာ"ဆိုတာဘယ်ဟာလဲ။ (ဆိုလိုရင်းမှာ 'မူလ'ဆို တဲ့ ပါဠိက 'အကြောင်းရင်း' 'အရင်းအမြစ်'ဟု အဓိပ္ပါယ်ရသည်။ သတ္တဝါတွေကို ဘဝသံသရာထဲ၌ နိမ့်ချည်မြင့်ချည် ချာချာလည်နေ အောင်ပြုလုပ်တတ်တဲ့ အကြောင်းရင်းမူလနှစ်ဖြာ ဒီပဋိစ္စသမုပ္ပါဒ် အင်္ဂါထဲမှာ ဘယ်ဟာလဲဟု ဆိုလို၏။)

ဖြေ - အဝိဇ္ဇာနဲ့ တဏှာဖြစ်ပါတယ်။ (နံပါတ် (၁)အကွက်ထဲမှ အဝိဇ္ဇာနဲ့ နံပါတ်(၃)အကွက်ထဲမှ တဏှာကို ထောက်ပြကောက်ယူ ပါ။ အဝိဇ္ဇာက ဘုံဘဝတွေရဲ့အပြစ်ကို မမြင်နိုင်အောင် ကာကွယ် ထားသည်။ ထိုအခါ တဏှာက လိုချင်မက်မောတွယ်တာတော့၏။ သူတို့နှစ်ဦးပေါင်းမိလျှင် သတ္တဝါတွေဟာ ဘဝသံသရာထဲမှ

မထွက်နိုင်အောင် ချာချာလည်ရတော့သည်။ သူတို့နှစ်ဦးဟာ သံသရာလည်ခြင်းရဲ့ အကြောင်းရင်းနှစ်ဖြာ ဖြစ်တော့၏။)

**မေး** - "သစ္စာနှစ်ခု" ဆိုတာ ဘယ်ဟာလဲ။ (ပဋိစ္စသမုပ္ပါဒ် ဒေသနာတော်တွင် ပါဝင်နေတဲ့ သစ္စာတရားတွေဆိုတာ ဘယ်ဟာတွေလဲ ဟု ဆိုလို၏။)

**ဖြေ** - သမုဒယသစ္စာနဲ့ ဒုက္ခသစ္စာတို့ ဖြစ်ပါတယ်။ (နံပါတ်(၁)အကွက်ထဲမှာပါတဲ့ အင်္ဂါ(၂)ပါးနှင့် နံပါတ်(၃)အကွက်ထဲမှာပါတဲ့ အင်္ဂါ(၃)ပါးတို့က သမုဒယသစ္စာ။

နံပါတ် (၂)အကွက်ထဲမှာပါတဲ့ အင်္ဂါ(၅)ပါးနှင့် နံပါတ်(၄)အကွက်ထဲမှာပါတဲ့ ဇာတိဇရာမရဏ အပြင် ဥပပတ္တိဘဝတို့က ဒုက္ခသစ္စာ။ ဤသစ္စာတို့ကို ဆိုလိုသည်။

ထို့ကြောင့်(၁)အကွက်၊ (၃)အကွက်အတွင်းပိုင်းအောက်ခြေတို့၌ သမုဒယသစ္စာဟုရေး၍ အပေါ်ကို လက်ညှိုးထိုးပြနေသည်။ (၂)အကွက်၊ (၄)အကွက်အောက်ခြေတို့၌လည်း ဒုက္ခသစ္စာဟုရေး၍ အပေါ်ကို ပြန်ပြီး လက်ညှိုးညွှန်နေကြ၏။

အထက်ပါအင်္ဂါရပ်တို့သည် သမုဒယသစ္စာ၊ အထက်ပါ အင်္ဂါရပ်တို့သည် ဒုက္ခသစ္စာဟု လက်ညှိုးညွှန်နေကြသည်ဟူလို။

နေရာဌာနအနေအားဖြင့် (၄)နေရာ၊ (၄)ဌာနကွဲနေ၍ (၄)ချက်ထောက်ပြီး လိုက်လံကောက်ယူရသော်လည်း သစ္စာအမျိုးအစားကတော့ (၂)ပါးသာရှိပေသည်။)

မေး - "လေးခုအလ္လာ"ဆိုတာ ဘယ်ဟာလဲ။

ဖြေ - (က) အတိတ်အကြောင်းတစ်လ္လာ၊

(ခ) ပစ္စုပ္ပန်အကျိုးတစ်လ္လာ၊

(ဂ) ပစ္စုပ္ပန်အကြောင်းတစ်လ္လာ၊

(ဃ) အနာဂတ်အကျိုးတစ်လ္လာတို့ ဖြစ်ပါသည်။

နံပါတ် (၁)အကွက်မှ အင်္ဂါ(၂)ပါးသည် သမုဒယသစ္စာဖြစ်၏။ (၃)အကွက်မှ အင်္ဂါ (၃)ပါးသည်လည်း သမုဒယသစ္စာများဖြစ်ကြသည်။

အဘယ်ကြောင့်ဆိုသော်(၁)အကွက်မှ သမုဒယသစ္စာသည် လွန်လေပြီးသော အတိတ်ကာလတွင် ဖြစ်ခဲ့သော သစ္စာ၊ (၃)အကွက်မှ သမုဒယသစ္စာသည် ယခုဖြစ်ဆဲ ပစ္စုပ္ပန်ကာလမှာ ဖြစ်သောသစ္စာ၊ အချိန်ကာလချင်းမတူကြ။ ထို့ကြောင့် ပေါင်း၍မရ၊ သို့ဖြစ်၍ ကိုယ့်အုပ်စုနှင့်ကိုယ့်အလ္လာနှင့် ကိုယ်နေကြသည်။

တစ်ဖန် နံပါတ်(၂)ကွက်ထဲမှ အင်္ဂါ(၅)ပါးသည် ဒုက္ခသစ္စာ၊ နံပါတ်(၄)ကွက်ထဲမှ အင်္ဂါ (၂)ပါးသည်လည်း ဒုက္ခသစ္စာ၊ (နောက်တိုးလာသော ဥပပတ္တိဘဝလည်း ဒုက္ခသစ္စာပင်)၊ သို့သော် သူတို့လည်း ပေါင်း၍မရကြ။

အကြောင်းမူကား အချိန်ကာလချင်း မတူကြသောကြောင့်ဖြစ်၏။ ထို့ကြောင့် ကိုယ့်အုပ်စုနှင့်ကိုယ်၊ ကိုယ့်အလ္လာနှင့်ကိုယ်နေကြသည်။

ထို့ကြောင့် (၁)အကွက်ထဲမှ အင်္ဂါ(၂)ပါးသည် အတိတ်အကြောင်းတစ်လွှာတွင် ပါဝင်၏။ (၂)အကွက်ထဲမှ အင်္ဂါ (၅) ပါးသည် ပစ္စုပ္ပန်အကျိုးတစ်လွှာတွင် ပါဝင်၏။ (၃)အကွက်ထဲမှ အင်္ဂါ (၃)ပါးသည် ပစ္စုပ္ပန်အကြောင်းတစ်လွှာတွင် ပါဝင်၏။ (၄) အကွက်ထဲမှ အင်္ဂါ (၂)ပါးသည် အနာဂတ်အကျိုးတစ်လွှာတွင် ပါဝင်၏။

ထိုသို့ ပါဝင်နေကြောင်း အောက်ခြေတွင် ဆိုင်ရာအကွက်တို့မှ လက်ညှိုးညွှန်ပြနေကြသည်။

**အင်္ဂါတစ်ဆယ့်နှစ်ပါး**

**မေး** - "အင်္ဂါတစ်ဆယ့်နှစ်ပါး"ဆိုတာ ဘယ်ဟာတွေလဲ။

**ဖြေ** - အဝိဇ္ဇာ၊ သင်္ခါရ၊ ဝိညာဏ်၊ နာမ်ရုပ်၊ သဠာယတန၊ ဖဿ၊ ဝေဒနာ၊ တဏှာ၊ ဥပါဒါန်၊ ဘဝ၊ ဇာတိ ဇရာမရဏတို့ ဖြစ်ပါတယ်။

(အင်္ဂါတစ်ဆယ့်နှစ်ပါး ရေတွက်ရာ၌ "ကမ္မဘဝ"လို့ တိတိကျကျဆိုလိုက်လျှင် ဥပပတ္တိဘဝကျန်နေမယ်။ သို့ဖြစ်၍ (၂)မျိုးလုံးပါအောင် "ဘဝ"လို့ သာမန်ပဲဆိုလိုက်သည်။

ယခုဖော်ပြလိုက်သော (၁၂)ပါးသည် "အင်္ဂါတစ်ဆယ့်နှစ်ပါး"ပင်ဖြစ်ကြ၏။ "တရားကိုယ်များနှင့်"ဆိုတာ "တရားကိုယ်ထည်များနှင့်"ဟု ဆိုလို၏။ "ကိုယ်ထည်အင်္ဂါ (၁၂)ပါးနှင့်"ဟု အဓိပ္ပါယ်ရ၏။

ဆိုလိုသည်မှာ ကိုယ်ထည်အင်္ဂါ (၁၂)ပါးသာရှိသည်။ သောက၊ ပရိဒေဝ၊ ဒုက္ခ၊ ဒေါမနဿ၊ ဥပါယာသဆိုတဲ့ (၅)ပါးတို့က ကိုယ်ထည်အင်္ဂါထဲမှာ မပါဝင်၊ အကျိုးဆက်များသာဖြစ်ကြ၏ ဟု ဆိုလိုသည်။ (သောကာဒိဝစနံ နိဿန္ဒဖလနိဒဿနံ)

**မေး** - "သုံးပါးအစပ်" ဆိုတာ ဘယ်ဟာလဲ။

**ဖြေ** - သင်္ခါရနဲ့ ဝိညာဏ်ကြားထဲ တစ်စပ်၊

ဝေဒနာနဲ့ တဏှာကြားထဲ တစ်စပ်၊

ကမ္မဘဝနဲ့ ဇာတိကြားထဲ တစ်စပ် တို့ ဖြစ်ပါတယ်။

ဆိုခဲ့ပြီး အုပ်စုအလွှာတို့အရ တစ်စုနှင့်တစ်စု ပေါင်းစပ်၍ မရသောကြောင့် ကြားတွင် အစပ်ဖြစ်နေကြရသည်။

အကြမ်းစားအားဖြင့် မြင်သာအောင် ပြောရလျှင် အကွက်ကြီး (၄)ကွက်ရှိ၏။ (၁)အကွက်နှင့် (၂)အကွက်ကြားတွင် တစ်စပ်၊ (၂)အကွက်နှင့် (၃)အကွက်ကြားတွင် တစ်စပ်၊ (၃)အကွက်နှင့် (၄)အကွက်ကြားတွင် တစ်စပ်တို့ ဖြစ်ကြ၏။

(၄)ကွက်ရှိသောကြောင့် ၄ စပ်ဟု မဆိုရ။ ဥပမာ-စပါးပုံကြီး (၄)ပုံကို စဉ်တန်းပုံထားပါ။ ပထမအပုံနှင့် ဒုတိယအပုံကြားတွင် တစ်စပ်၊ ဒုတိယအပုံနှင့် တတိယအပုံကြားတွင်တစ်စပ်၊ တတိယအပုံနှင့် စတုတ္ထအပုံကြားတွင် တစ်စပ်တို့ဖြစ်ကြပုံနှင့် နှိုင်းယှဉ်ကြည့်ပါ။)

**မေး** - နှစ်ရပ်မူလဆိုတာ ဘယ်ဟာလဲ။

**ဖြေ** - တဏှာနဲ့ အဝိဇ္ဇာ ဖြစ်ပါတယ်။

အမှန်မှာ "မူလနှစ်ဖြာ"နှင့် အတူတူပင်ဖြစ်သည်။ ထို့ကြောင့် အရကောက်ရာတွင်လည်း "မူလနှစ်ဖြာ"တုန်းကလို "အဝိဇ္ဇာနှင့် တဏှာ"ဟု ဆိုပါက မှားသည်ဟု မဆိုသာ။

သို့ရာတွင် အာရုံပြောင်းသွားအောင် ပြောင်းပြန်ဆို၍ "တဏှာနဲ့ အဝိဇ္ဇာ"ဟု ကောက်လိုက်သည်။ ကောက်ရာတွင်လည်း နံပါတ်(၃)အကွက်မှ တဏှာနှင့် နံပါတ်(၂)အကွက်မှ အဝိဇ္ဇာတို့ကို ကောက်ယူပြခြင်း ဖြစ်သည်။

စက်ဝိုင်းကြီး၏ အလယ်ခေါင် စက်ဝိုင်းကလေးအတွင်းမှ အဝိဇ္ဇာနှင့် တဏှာကို ကောက်ယူပြခြင်းမဟုတ်။ အဘယ်ကြောင့်ဆိုသော် ဤစကားစဉ်အရဆိုလျှင် ယင်းစာလုံးတို့ကို ယခုအထိ မရေးရသေး။ သို့ဖြစ်၍လည်း မရှိသေး။

ယခုဖော်ပြနေသည်မှာ အင်္ဂါ (၁၂)ပါး ကိုယ်ထည်ကို ကိုင်ထားပြီး ပြောနေခြင်းသာဖြစ်၏။ စက်ဝိုင်းကလေးအတွင်းမှ အဝိဇ္ဇာနှင့် တဏှာတို့ကား နောင်တစ်ချိန်တွင် အာသဝ ဝင်ရိုးချီးသည့်အခါ ဘီးကြီး ပြုလုပ်ရာ၌ ပုံတောင်းအဖြစ် သတ်မှတ်ရန် ထည့်ထားခြင်းဖြစ်၏။ ကိုယ်ထည်အင်္ဂါမဟုတ်။

## ဝဋ်သုံးပါးလည်းပါရှိ

မေး - "ဝဋ်သုံးဝ"ဆိုတာ ဘယ်ဟာတွေလဲ။

ဖြေ - ကိလေသဝဋ်၊ ကမ္မဝဋ်၊ ဝိပါကဝဋ်တို့ဖြစ်ပါတယ်။

မေး - ကိလေသဝဋ်က ဘယ်နှစ်ပါးရှိပါသလဲ။

ဖြေ - သုံးပါးရှိပါတယ်။

မေး - ဘယ်ဟာတွေလဲ၊ ရေတွက်ပြပါ။

ဖြေ - အဝိဇ္ဇာ၊ တဏှာ၊ ဥပါဒါန်တို့ဖြစ်ပါတယ်။ (နံပါတ် ၁-အကွက်မှ အဝိဇ္ဇာ၊ ၃-အကွက်မှ တဏှာ၊ ဥပါဒါန်တို့ကို ကောက်ယူရန်ဖြစ်ပါတယ်။)

မေး - ကမ္မဝဋ် ဘယ်နှစ်ပါးရှိပါသလဲ။

ဖြေ - နှစ်ပါးရှိပါတယ်။

မေး - ဘယ်ဟာတွေလဲ၊ ရေတွက်ပြပါ။

ဖြေ - သင်္ခါရနှင့် ကမ္မဘဝတို့ဖြစ်ပါတယ်။ (နံပါတ် ၁-အကွက်မှ သင်္ခါရနှင့် ၃-အကွက်မှ ကမ္မဘဝတို့ကို ဆိုခြင်းဖြစ်ပါတယ်။)

မေး - ဝိပါကဝဋ် ဘယ်နှစ်ပါးရှိသလဲ။

ဖြေ - ရှစ်ပါးရှိပါတယ်။

မေး - ဘယ်ဟာတွေလဲ၊ ရေတွက်ပြပါ။

**ဖြေ** - ဝိညာဏ်၊ နာမ်ရုပ်၊ သဠာယတန၊ ဖဿ၊ ဝေဒနာ၊ ဇာတိ၊ ဇရာမရဏနှင့် ဥပပတ္တိဘဝတို့ဖြစ်ပါတယ်။
(ကောက်ယူသောအခါ နံပါတ်-၂ အကွက်မှ ၅ မျိုးနှင့် နံပါတ်-၄ အကွက်ထဲမှ ဇာတိ၊ ဇရာမရဏနှင့် ဥပပတ္တိဘဝတို့ကို ကောက်ယူရန်ဖြစ်ပါတယ်။)

**မေး** - "ကာလသုံးဖြာ"ဆိုတာ ဘယ်ဟာတွေလဲ။

**ဖြေ** - (က) လွန်လေပြီးသော အတိတ်ကာလ၊
(ခ) ယခုဖြစ်ဆဲ ပစ္စုပ္ပန်ကာလ၊
(ဂ) နောင်ဖြစ်လတ္တံ့ အနာဂတ်ကာလတို့ ဖြစ်ပါတယ်။
(ဆိုလိုသည်မှာ ဤကာလ ၃ ပါးတို့၌ ပါဝင်သော အင်္ဂါရပ်ဆိုတာ ဘယ်ဟာတွေလဲ ဟူလို။)
နံပါတ် (၁)အကွက်ထဲမှာပါတဲ့ အဝိဇ္ဇာနှင့် သင်္ခါရတို့က လွန်လေပြီးသော အတိတ်ကာလတွင် ပါဝင်ကြ၏။
နံပါတ် (၄)အကွက်တွင် ပါဝင်ကြတဲ့ ဇာတိနှင့် ဇရာမရဏ (ဥပပတ္တိဘဝ)တို့က နောင်ဖြစ်လတ္တံ့သော အနာဂတ်ကာလ၌ ပါဝင်ကြ၏။
နံပါတ် (၂)အကွက်နှင့် နံပါတ်(၃)အကွက်တွင် ပါဝင်ကြတဲ့ အင်္ဂါရှစ်မျိုးက ယခုဖြစ်ဆဲ ပစ္စုပ္ပန်ကာလ၌ ပါဝင်ကြသည်။)

## အခြင်းအရာနှစ်ဆယ်ဆိုတာ

**မေး** - "ခြင်းရာနှစ်ဆယ်"ဆိုတာ ဘယ်ဟာတွေလဲ။

**ဖြေ** - (က) အတိတ်အကြောင်းအခြင်းအရာ (၅) ပါး၊
(ခ) ပစ္စုပ္ပန်အကျိုးအခြင်းအရာ (၅) ပါး၊
(ဂ) ပစ္စုပ္ပန်အကြောင်းအခြင်းအရာ (၅) ပါး၊
(ဃ) အနာဂတ် အကျိုးအခြင်းအရာ (၅) ပါး၊
တို့ဖြစ်ပါတယ်။

**မေး** - "အတိတ်အကြောင်းအခြင်းအရာ (၅) ပါး" ဆိုတာ ဘယ်ဟာများလဲ။

**ဖြေ** - နံပါတ် (၁)အကွက်ထဲက အဝိဇ္ဇာ၊ သင်္ခါရနှင့် နံပါတ်(၃) အကွက်ထဲက တဏှာ၊ ဥပါဒါန်၊ ကမ္မဘဝတို့ ဖြစ်ပါတယ်။

(ယခုခေါင်းစီး၏ အောက်က ကပ်လျက်ဖော်ပြပါရှိသော ၅-ပါးသည် ယခုကောက်ယူဖော်ပြသော ၅ ပါးပင်ဖြစ်၏။ လိုက်လံရှာဖွေမနေရအောင် ဤအကွက်တွင် စုရုံးဖော်ပြထားခြင်းသာ ဖြစ်သည်။)

ဘာကြောင့် ဤသို့ကောက်ယူရသလဲဆိုလျှင် "အဝိဇ္ဇာ" ဆိုတဲ့ မောဟစေတသိက်သည် အကုသိုလ်စိတ် (၁၂)ပါးလုံး၌ ပါရှိ၏။

တဏှာ၊ ဥပါဒါန်တို့သည် အကုသိုလ်လောဘမူစိတ် (၈)ပါး၌ ပါရှိကြ၏။ သို့ဖြစ်၍ အတူဖြစ်ဖော်ဖြစ်ဖက်များ ဖြစ်ကြသည်။

တစ်ဖန် "သင်္ခါရ"အရ ကောက်ယူခဲ့တုန်းက လောကီကုသိုလ်၊ အကုသိုလ် စေတနာကံ (၂၉)ပါးကို ကောက်ယူခဲ့၏။ ကမ္မဘဝအတွက်လည်း ယင်းစေတနာကံ (၂၉)ပါးကိုပင် အရကောက်ရ၏။ အရကောက်တူသည်။ ထို့ကြောင့် သင်္ခါရကို ယူလိုက်လျှင် ကမ္မဘဝလည်း ပါရ၏။

သို့ဖြစ်၍ သင်္ဂြိုဟ်ကျမ်းငယ်က -

"အဝိဇ္ဇာသင်္ခါရဂ္ဂဟဏေန ပနေတ္ထ
တဏှုပါဒါနဘဝါပိ ဂဟိတာ ဘဝန္တိ၊
တထာ တဏှုပါဒါနဘဝဂ္ဂဟဏေနစ
အဝိဇ္ဇာ သင်္ခါရာ"ဟု ဆိုထားသည်။

အဓိပ္ပာယ်မှာ"ဤအင်္ဂါ (၁၂)ပါးတွင် အဝိဇ္ဇာနှင့် သင်္ခါရကို ကောက်ယူလိုက်သဖြင့် တဏှာ၊ ဥပါဒါန်၊ ဘဝတို့ကိုလည်း ယူပြီးဖြစ်တော့၏။

တစ်ဖန် တဏှာ၊ ဥပါဒါန်၊ ဘဝတို့ကို ယူလိုက်ပြန်သဖြင့်လည်း အဝိဇ္ဇာနှင့် သင်္ခါရတို့ကို ယူပြီးဖြစ်ပြန်တော့၏"ဟု ဆိုလိုသည်။

မေး - "ပစ္စုပ္ပန်အကျိုးအခြင်းအရာ (၅)ပါး"ဆိုတာ ဘယ်ဟာများလဲ။

ဖြေ - နံပါတ် (၂)အကွက်ထဲက ဝိညာဏ်၊ နာမ်ရုပ်၊ သဠာယတန၊ ဖဿ၊ ဝေဒနာတို့ ဖြစ်ပါသည်။

မေး - "ပစ္စုပ္ပန်အကြောင်းအခြင်းအရာ (၅)ပါး"ဆိုတာ ဘယ်ဟာများလဲ။

ဖြေ - နံပါတ် (၃)အကွက်ထဲက တဏှာ၊ ဥပါဒါန်၊ ကမ္မဘဝနှင့် နံပါတ် (၁)အကွက်ထဲက အဝိဇ္ဇာ၊ သင်္ခါရတို့ဖြစ်ပါတယ်။ "တထာ တဏှုပါဒါန ဘဝဂ္ဂဟဏေန စ အဝိဇ္ဇာ သင်္ခါရာ" ဟူ၍ အကြောင်းပြစကားများ ဖော်ပြပြီးဖြစ်သည်။

မေး - အနာဂတ် အကျိုးအခြင်းအရာ (၅)ပါးဆိုတာ ဘယ်ဟာများလဲ။

ဖြေ - နံပါတ် (၂)အကွက်ထဲက ဝိညာဏ်၊ နာမ်ရုပ်၊ သဠာယတန၊ ဖဿ၊ ဝေဒနာတို့ ဖြစ်ပါတယ်။

မှတ်ချက်။ ။ဤနေရာ၌ နံပါတ် (၄)အကွက် ထိပ်စီးမှာ "အနာဂတ်အကျိုး အခြင်းအရာ ၅ ပါး"ဟူ၍ ခေါင်းစီးတပ်ထား၏။ ထို့ကြောင့် နံပါတ်(၄)အကွက်ထဲက ဇာတိ၊ ဇရာမရဏတို့ကို စတင်၍ ကောက်ယူရမည်ဖြစ်သည်။ သို့သော်လည်း မကောက်ယူ

မသုံးသပ်တော့ဘဲ နံပါတ်(၂)အကွက်ထဲက (၅)မျိုးကိုသာ ကောက်ယူပြသွား၏။ အဘယ်ကြောင့်ပါလဲဟု စာဒကတက်ကြသည်။

အဖြေကား -ဇာတိဆိုတာ "ဖြစ်ပေါ်ခြင်း"ဟု အဓိပ္ပာယ်ရ၏။ ဘာတွေဖြစ်ပေါ်သလဲဆိုလျှင် ရုပ်နာမ်နှစ်ပါး၊ ခန္ဓာငါးပါးဖြစ်ပေါ်ကြခြင်းဖြစ်၏။

"ဇရာ-အိုခြင်းနှင့် မရဏ-သေခြင်း"တို့လည်း ရုပ်နာမ်နှစ်ပါး၊ ခန္ဓာငါးပါးတို့ အိုကြ သေကြခြင်းဖြစ်၏။ ထို့ကြောင့် ဇာတိ၊ ဇရာ၊ မရဏတို့ ဆိုတာ နံပါတ်(၂)အကွက်ထဲမှာရှိတဲ့ ဝိညာဏ် နာမ်ရုပ်စတဲ့ ၅ ပါး၊ ခန္ဓာ ၅ ပါးနှင့် အတူတူပင် ဖြစ်ကြ၏။

ထို့ကြောင့် သင်္ဂြိုဟ်ကျမ်းငယ်က "ဇာတိ ဇရာ မရဏာဂ္ဂဟဏေန စ ဝိညာဏာဒိ ဖလပဉ္စကမေဝ ဂဟိတံ" ဟု ဆိုသည်။

အဓိပ္ပာယ်မှာ "ဇာတိ ဇရာ မရဏတို့ကို ယူလိုက်သဖြင့် ဝိညာဏ်အစရှိတဲ့ နံပါတ်(၂)အကွက်ထဲက အကျိုးငါးပါးကို ယူပြီးဖြစ်တော့တယ်"ဟု ဆိုလို၏။

သို့ဖြစ်၍ နံပါတ်(၄)အကွက်နှင့် (၂)အကွက် အတူတူဖြစ်သောကြောင့် သရုပ်ရေတွက်မှု နာမည်ချင်းတူသော နံပါတ်(၂) အကွက်ထဲမှ (၅)မျိုးကိုပင် ရေတွက်လိုက်တော့သည်။

ယခုဆိုလျှင် ပဋ္ဌာန်းစ္စသမုပ္ပါဒ်ကိုယ်ထည် အင်္ဂါ (၁၂)ပါးကို တည်ထားပြီးတော့ အသွယ်(၈)သွယ်အားဖြင့် ခွဲခြားစိစစ်ပြီးခဲ့ပြီ။ ထိုအသွယ် (၈)သွယ်ကို ရေတွက်ကြဦးစို့-

၁။ မူလနှစ်ဖြာက တစ်သွယ်၊

၂။ သစ္စာနှစ်ခုက တစ်သွယ်၊

၃။ လေးခုအလ္ဍာက တစ်သွယ်၊

၄။ အင်္ဂါတစ်ဆယ့်နှစ်ပါးက တစ်သွယ်၊

၅။ သုံးပါးအစပ်က တစ်သွယ်၊
နှစ်ရပ်မူလကို (မူလနှစ်ဖြာနဲ့ တူပြီဖြစ်၍)ချန်ခဲ့။

၆။ ဝဋ်သုံးဝက တစ်သွယ်၊

၇။ ကာလသုံးဖြာက တစ်သွယ်၊

၈။ ခြင်းရာနှစ်ဆယ်က တစ်သွယ် တို့ ဖြစ်ကြပါသည်။

**ဒိဋ္ဌိသုံးမျိုးအစိမ့်ဟယ်**

ဒိဋ္ဌိအမျိုးအစား (၆၂)ပါးရှိသော်လည်း အရေးကြီးသော ဒိဋ္ဌိ ၃ မျိုးကို ဦးစွာပထမပြနှင့်ပါဦးမည်။ "ဒိဋ္ဌိ"ဆိုတာ အပြည့်အစုံ ပြောလျှင် "မိစ္ဆာဒိဋ္ဌိ" ဖြစ်၏။ (မိစ္ဆာ=မှားမှားယွင်းယွင်း၊ ဒိဋ္ဌိ=ထင်မြင်ယူစွဲခြင်း။)

၁။ သဿတဒိဋ္ဌိ = ရုပ်နာမ် (၂)ပါး၊ (သို့မဟုတ်)ခန္ဓာ(၅)ပါးကို ခိုင်သည်၊ မြဲသည်ဟု ယူစွဲသော အယူဖြစ်၏။

၂။ ဥစ္ဆေဒဒိဋ္ဌိ = ရုပ်နာမ် (၂)ပါး၊ (သို့မဟုတ်)ခန္ဓာ(၅)ပါးသည် သေပြီးလျှင် ပြတ်တာပဲ၊ နောက်ထပ် အဆက်အစပ်မရှိဟု ယူစွဲသော အယူဖြစ်၏။

၃။ သက္ကာယဒိဋ္ဌိ = ရုပ်နာမ် (၂)ပါး၊ (သို့မဟုတ်)ခန္ဓာ(၅)ပါးသည် တကယ့်အစစ်အမှန် ထင်ရှားရှိသော တရားဖြစ်၏။ ထို့ကြောင့် ယင်းတို့ကို "သက္ကာယ"ဟု ခေါ်သည်။

တကယ့်အစစ်ရှိတဲ့ ထိုသက္ကာယအပေါ်မှာ တကယ်အစစ်မရှိတဲ့ ပုဂ္ဂိုလ်၊ သတ္တဝါ၊ လူ၊ နတ်၊ ဗြဟ္မာ၊ ယောကျ်ား၊ မိန်းမ၊ သမီး၊ သား စသည်အားဖြင့် တင်စား၍ ထင်မှားယူစွဲနေသော အယူဖြစ်၏။

**သက္ကာယဒိဋ္ဌိအတွက် ပြောကြားချက်**

သန္တော ကာယော သက္ကာယော။ ။သန္တော=တကယ်အစစ်အမှန် ထင်ရှားရှိသော၊ ကာယော=ရုပ်နာမ်နှစ်ပါးအပေါင်းတည်း၊ သက္ကာယော=တကယ်အစစ်အမှန်ထင်ရှားရှိသော ရုပ်နာမ်နှစ်ပါးအပေါင်း၊ ရုပ်နာမ် ၂ ပါး (သို့မဟုတ်) ခန္ဓာ ၅ ပါးကို တကယ်အစစ်အမှန်ရှိလို့ 'သက္ကာယ'ဟု ခေါ်ရသည်။

သက္ကာယေ+ဒိဋ္ဌိ=သက္ကာယဒိဋ္ဌိ။ ။သက္ကာယေ-တကယ်အစစ်အမှန် ထင်ရှားရှိသော ရုပ်နာမ်နှစ်ပါးအပေါ်၌၊ ဒိဋ္ဌိ-တကယ်အစစ်အမှန်မရှိသော ပုဂ္ဂိုလ်၊ သတ္တဝါ၊ လူ၊ နတ်၊ ဗြဟ္မာ စသည်

အားဖြင့် တင်စား၍ ထင်မှားယူဆနေခြင်းတည်း။ သက္ကာယ ဒိဋ္ဌိ-တကယ် အစစ်အမှန်ရှိတဲ့ ရုပ်နာမ်နှစ်ပါးအပေါ်၌+တကယ် အစစ်အမှန် မရှိတဲ့ ပုဂ္ဂိုလ်၊ သတ္တဝါ၊ လူ၊ နတ်၊ ဗြဟ္မာ စသည်အားဖြင့် တင်စား၍ ထင်မှားယူဆနေခြင်း။ ဆိုလိုသည်မှာ ရုပ်နာမ် ၂ ပါး၊ ခန္ဓာ ၅ ပါးကို ပုဂ္ဂိုလ်၊ သတ္တဝါ၊ လူ၊ နတ်၊ ဗြဟ္မာ၊ ယောကျ်ား၊ မိန်းမ၊ သမီး၊ သား စသည်အားဖြင့် ထင်မှားနေခြင်းများ ဖြစ်၏။

ဝိစိကိစ္ဆာ = အကြောင်းရင်းကိုမသိ၍၊ မပိုင်၍ သို့လော သို့လော တွေးတောကာ ယုံမှားသံသယဖြစ်ခြင်း။

## ဓမ္မအစဉ်ကြီးမျှသာဖြစ်ပျက်နေကြ

အနုလောမ ပဋိစ္စသမုပ္ပါဒ် ဒေသနာတော် ပါဠိအဆုံးတွင် "ဧဝမေတဿ ကေဝလဿ ဒုက္ခက္ခန္ဓဿ သမုဒယော ဟောတိ" ဟု နိဂုံးအုပ်ထားသည်။ (ဧဝံ - ဤသို့လျှင်၊ ကေဝလဿ- ချမ်းသာသုခမဖက် သက်သက်မျှသာဖြစ်သော၊ ဧတဿ ဒုက္ခက္ခန္ဓဿ-ဤဒုက္ခအစုကြီး၏၊ သမုဒယော-ဖြစ်ပေါ်နေခြင်းသည်၊ ဟောတိ-ထင်ရှားတော့၏။)

ပဋိလောမ ပဋိစ္စသမုပ္ပါဒ်ဒေသနာတော် ပါဠိအဆုံးတွင်လည်း "ဧဝမေတဿ ကေဝလဿ ဒုက္ခက္ခန္ဓဿ နိရောဓော ဟောတိ"ဟု နိဂုံးအုပ်ထားတော်မူ၏။ အဓိပ္ပာယ်မှာ-

"ဤသို့လျှင် ချမ်းသာသုခမဖက် သက်သက်မျှဖြစ်သော ဤဒုက္ခအစုကြီး၏ ချုပ်ပျောက်ပျက်စီးနေခြင်းသည်သာ ထင်ရှားတော့၏။

ဆိုလိုတော်မူသည့်အချက်မှာ "လောကကြီးတစ်ခုလုံး" "အကြောင်းကြောင့်အကျိုးဖြစ်" "အကြောင်းကြောင့်အကျိုးဖြစ်" နေတဲ့ ဒုက္ခအစုဓမ္မအစဉ်အတန်းမျှသာ ဖြစ်၏။

ပဋိလောမဒေသနာတော်အရလည်း "အကြောင်းချုပ်၍+အကျိုးချုပ်" "အကြောင်းချုပ်၍+အကျိုးချုပ်"နေတဲ့ ဒုက္ခအစု ဓမ္မအစဉ်အတန်းမျှသာဖြစ်၏။

ပုဂ္ဂိုလ်သတ္တဝါတွေ၊ လူနတ်ဗြဟ္မာတွေ ဖြစ်ပေါ်နေကြတာမဟုတ်၊ ချုပ်ပျောက်နေကြတာမဟုတ်၊ ဒုက္ခအစု ဓမ္မအစဉ်အတန်းကြီးတွေ ဖြစ်ပေါ်နေကြ၊ ချုပ်ပျောက်နေကြတာဟု ဆိုလိုသည်။

## ဒေသနာတော်အရ ဒိဋ္ဌိဓွေကွာရ

ဘုရားရှင် ကိုယ်တော်မြတ်ကြီး၏ ရည်ရွယ်တော်မူချက်မှာ ပဋိစ္စသမုပ္ပါဒ် အနုလောမဒေသနာတော်ကို ဟောပြတော်မူခြင်းဖြင့် (အကြောင်းကြောင့်အကျိုးဖြစ်တယ်)(အကြောင်းကြောင့်အကျိုးဖြစ်တယ်)ဖြစ်တယ်၊ ဖြစ်တယ်၊ ဖြစ်တယ်ဟု သတ္တဝါဝေနေယျတွေ သိကုန်ကြစေချင်၏။

ထိုသို့ "ဖြစ်တယ်" "ဖြစ်တယ်"ဟု သိရသဖြင့် "မဖြစ်တော့ဘူး" "ပြတ်သွားတယ်"ဟူသော ဥစ္ဆေဒဒိဋ္ဌိအယူကို ဆန့်ကျင်ဘက်ပြု၍ တွန်းလှန်စေလို၏။ ဆိုလိုရင်းမှာ-"အဖြစ်ကို မြင်သဖြင့် ဥစ္ဆေဒဒိဋ္ဌိ ကင်းစင်သွားစေချင်သည်"။

တစ်ဖန် ပဋိစ္စသမုပ္ပါဒ် ပဋိလောမဒေသနာတော်ကို ဟောပြတော်မူခြင်းဖြင့်လည်း (အကြောင်းချုပ်၍ အကျိုးချုပ်ရ) (အကြောင်းချုပ်၍ အကျိုးချုပ်ရ) ချုပ်ပျောက်ရ၊ ချုပ်ပျောက်ရ၊ ချုပ်ပျောက်ရဟု သတ္တဝါဝေနေယျတွေ သိကုန်ကြစေချင်၏။

ထိုသို့ "ချုပ်ပျောက်ရ" "ချုပ်ပျောက်ရ"ဟု သိသဖြင့် "မချုပ်ပျောက်ဘဲ ခိုင်တယ်၊ မြဲတယ်"ဟူသော သဿတဒိဋ္ဌိအယူကို ဆန့်ကျင်ပြု၍ တွန်းလှန်စေလို၏။ ဆိုလိုရင်းမှာ-

"အပျက်ကိုမြင်သဖြင့် သဿတဒိဋ္ဌိ ကင်းစင်သွားစေချင်သည်။"

ထို့ပြင် ထိုဖြစ်ကြ၊ ပျက်ကြသော အစဉ်အတန်းကြီးသည် ပုဂ္ဂိုလ်သတ္တဝါမဟုတ်၊ ယောက်ျား မိန်းမ (မဟုတ်) သားသမီး၊ မြေး၊ မြစ် စသည်လည်းမဟုတ်၊ ဓမ္မအစဉ်အတန်းကြီးသက်သက်မျှသာ ဖြစ်ကြ ပျက်ကြသည်ဟုလည်း သိစေချင်၏။

ထို့ကြောင့် "ဧဝမေတဿ ကေဝလဿ ဒုက္ခက္ခန္ဓဿ သမုဒယော ဟောတိ။ပေ။နိရောဓော ဟောတိ"ဟု မိန့်တော်မူခြင်း ဖြစ်သည်။

အဓိပ္ပာယ်မှာ "အကြောင်းကြောင့် ဖြစ်သော အကျိုး တရားထဲမှာလည်းကောင်း၊ အကြောင်းချုပ်၍ အကျိုးချုပ်ရသော တရားထဲမှာလည်းကောင်း၊ ပုဂ္ဂိုလ်သတ္တဝါမန္နော၊ ဓမ္မအစဉ် အတန်းကြီး သဘောသက်သက်မျှသာ ဖြစ်နေကြ ပျက်နေကြ သည်ဟုလည်း သတ္တဝါဝေနေယျတွေ သိကုန်ကြစေချင်၏။"

ထိုသို့ သိသဖြင့် ရုပ်နာမ် ဓမ္မ ပုဂ္ဂိုလ် သတ္တဝါ သူငါ ယောက်ျား အမှတ်မှားသော သက္ကာယဒိဋ္ဌိကို တွန်းလှန်စေလို၏။ ဆိုလိုသည်မှာ "အကျိုးတရားထဲ၌ ပုဂ္ဂိုလ် သတ္တဝါ ဗြဟ္မာ လူနတ် မပါ၊ ရုပ်နာမ် ဓမ္မအစုမျှသာ"ဟု သိသဖြင့် သက္ကာယဒိဋ္ဌိ ကင်းစင် သွားစေချင်သည်။

အချုပ်ဆိုရသော် ပဋိစ္စသမုပ္ပါဒ် အနုလောမ ပဋိလောမ ဒေသနာတော်အရ (က)သဿတဒိဋ္ဌိ၊ (ခ)ဥစ္ဆေဒဒိဋ္ဌိ (ဂ)သက္ကာယ ဒိဋ္ဌိတွေ ကွာကုန်စေလိုသည်။

**ဗလဝနှင့် ဒုဗ္ဗလဝိပဿနာ**

ဤကဲ့သို့ အသိဉာဏ်ဖြင့် (ဉာတ ပရိညာဖြင့်) ဒိဋ္ဌိ တွေ ခွာပြီးမှ ဝိပဿနာကို အားထုတ်ရမည်ဟု မိုးကုတ်ဆရာတော်

ဘုရားကြီးက မိန့်ပါသည်။ ဒိဋ္ဌိမခွာဘဲ အားထုတ်သော ဝိပဿနာ သည်“ဒုဗ္ဗလ ဝိပဿနာ” (အားနည်းသော ဝိပဿနာ၊ ချည့်နဲ့သော ဝိပဿနာ)ဟု ခေါ်ရ၏။ တရားထူးရဖို့ မလွယ်ကူ။

ထို့ကြောင့် တရားအားမထုတ်မီ ဆိုင်ရာ ဒိဋ္ဌိတွေကို အသိ ဉာဏ်ဖြင့် ခွာပါဦး၊ ပြီးမှအားထုတ်ပါ။ ထိုသို့ ဒိဋ္ဌိခွာပြီးမှ အားထုတ် သော ဝိပဿနာသည်သာ “ဗလဝဝိပဿနာ” (=အားကြီးသော ဝိပဿနာ၊ အားကောင်းသော ဝိပဿနာ)ဟု ခေါ်ရ၏။ တရားထူး ရဖို့ လွယ်ကူသည်။

ထို့ကြောင့်ပင် မြတ်စွာဘုရားက တရားလာ၍ လျှောက် သော မောဃရာဇအား -

သုညတော လောကံ အဝေက္ခဿု၊
မောဃရာဇ သဒါ သတော။
အတ္တာနုဒိဋ္ဌိံ ဦဟစ္စ၊
ဧဝံ မစ္စုတရော သိယာ။ ။

“မောဃရာဇ. . . အတ္တဒိဋ္ဌိကို ဦးစွာပထမ ပယ်နုတ်ပြီးမှ အမြဲတမ်း သတိထားပြီး ရုပ်နာမ်လောကကြီးကို သုညဖြစ်အောင် ရှုပါ”ဟူ၍ ဟောတော်မူခြင်း ဖြစ်ပေသည်။

**မှတ်ချက်။** ။ဤ၌ “ဦးစွာပထမ ဒိဋ္ဌိကိုခွာပါ”ဟူသော အမိန့်တော်ကို သတိထားရမည် ဖြစ်၏။

## အတိတ်ကံကြောင့် ဖြစ်ပေါ်လာရ

သင်္ခါရပစ္စယာ ဝိညာဏံ။ ရှေးအတိတ်ကံ စေတနာသင်္ခါရ အစွမ်းသတ္တိကြောင့် ပဋိသန္ဓေစိတ်ဖြစ်ပေါ်လာရ၏။

ထို့အပြင် "ဝိညာဏပစ္စယာ နာမရူပံ"အရ ဝိညာဏ် ကြောင့်"နာမ်"ဟူသော စေတသိက်များ (ဝိညာဏ်ဟူသော ပဋိသန္ဓေစိတ်နှင့် ဖြစ်ပေါ်ဖြစ်ဖက် စေတသိက်များ)နှင့် "ရုပ်"ဟူသော ကမ္မဇရုပ်များ ဖြစ်ပေါ်လာရသည်။

ဤမှာပင် ရုပ်က ရူပက္ခန္ဓာ၊ နာမ်က စေတသိက်ခန္ဓာ ၃ပါးဖြစ်၍ ဝေဒနာက္ခန္ဓာ၊ သညာက္ခန္ဓာ၊ သင်္ခါရက္ခန္ဓာ ဖြစ်ကြ၏။ ဝိညာဏ်က ဝိညာဏက္ခန္ဓာ ဖြစ်သောကြောင့် ခန္ဓာ ၅-ပါး ပြည့်ပြီ။

**မှတ်ချက်။** ။ ဒေသနာအစဉ်မှာ "ဝိညာဏ်" ကို ဦးစွာပထမ ဟောပြီးမှ ဒုတိယအနေဖြင့် "နာမ်ရုပ်"ဟုခွဲ၍ ဟော တော်မူသော်လည်း တကယ့်ဖြစ်စဉ်မှာတော့(ဝိညာဏ် နာမ်ရုပ်) တစ်ပြိုင်နက် တစ်ချိန်တည်းဖြစ်သည်ဟု ဆိုပါ၏။

ထို့ကြောင့် အမိဝမ်းမှာ ခန္ဓ ၅-ပါး တစ်ပြိုင်နက် တစ်ချိန် တည်း ဖြစ်ပေါ်လာရသည်ဟု သိနိုင်တော့၏။

## ဤသို့သိလျှင် ဒိဋ္ဌိ-ဝိစိကိစ္ဆာစင်ကြယ်

(က) ဤ၌ ခန္ဓာငါးပါးဖြစ်ပေါ်လာခြင်းသည် အလိုလိုဖြစ် ပေါ်လာသည်မဟုတ်၊ သင်္ခါရဟူသော အကြောင်းတရားအစွမ်း သတ္တိ

ကြောင့်ဖြစ်ပေါ်လာရသည်ဟု အကြောင်းတရားအပေါ်မှာ ဉာဏ်ရှင်းလျှင် ဝိစိကိစ္ဆာ ကိလေသာစင်သည်။

(ခ) ဖြစ်ပေါ်လာသောအကျိုးတရားသည် လူ၊နတ်၊ပြဟ္မာ ပုဂ္ဂိုလ်သတ္တဝါတွေမဟုတ်။နာမ်နှင့် ရုပ်မျှသာဖြစ်သည်ဟု ဉာဏ်ရှင်းလျှင် သက္ကာယဒိဋ္ဌိစင်သည်။

(ဂ) အကြောင်းမကင်းဘဲနဲ့ အကျိုးဖြစ်ပေါ်လာသည်၊ "ဖြစ်ဖြစ်၊ ဖြစ်-ဖြစ်-"လာသည်ဟုသိလျှင် ဥစ္ဆေဒဒိဋ္ဌိစင်သည်။

(ဃ) ထိုဖြစ်ပေါ်လာသော အကျိုးတရားသည် မြဲမြံခိုင်ခံ့တည်တံ့နေသည်မဟုတ်။ "ချုပ်-ပျောက်၊ ချုပ် ပျောက်"ကုန်သည်ဟု သိလျှင် သဿတဒိဋ္ဌိစင်သည်။

**အမှာ။** ။ ဤနည်းအားဖြင့် "နာမရူပပစ္စယာ သဠာယတနံ" ဖြစ်ရာ၌လည်း ဆိုခဲ့ပြီးအတိုင်း ၄-ချက်ခွဲပါ။ သဠာယတန ပစ္စယာ ဖဿော၌လည်း (၄)ချက်ခွဲပါ။ ဝေဒနာပစ္စယာ တဏှာ စသည် တစ်တန်းလုံး(၄)ချက် ခွဲ၍သိပါ။

## ဤကားရုပ် ဤကားနာမ်

"သင်္ခါရကြောင့် ဝိညာဏ်ဖြစ်၊ နာမ်ရုပ်ဖြစ်"ဟူ၍ ဖြစ်ကြရာ၌ ခန္ဓာငါးပါး ပြည့်စုံနေပြီဖြစ်ကြောင်း ဖော်ပြခဲ့ပြီ။ ထိုတွင် ရုပ်တရားသည် ရူပက္ခန္ဓာမည်၏။ မှုန်မှုန်သေးသေး ကမ္မဇရုပ်

ကလေးမှစ၍ တရွေ့ရွေ့ကြီးပြင်းလာသော ရုပ်ဝတ္ထုကြီးများအထိ ရုပ်တရားဟူသမျှ ဘာမျှ မသိတတ်ကြပါ။

**(ရုပ်ဟူသမျှ၊ ဘာကိုမျှ၊ မသိတတ်ကြပါ)**

"ဝိညာဏ်၊ နာမ်"ဟူသော နာမ်တရားတို့ကသာ သိတတ်ကြပါသည်။**(နာမ်တို့သည်သာ၊ သိတတ်တာ၊ ရုပ်ကိုမှီ၍သာ)** နာမ်တရားတို့ကား မျက်စိဖြင့်မြင်ရကောင်းသော ပစ္စည်းများ မဟုတ်ကြချေ။ သို့သော်လည်း စွမ်းအားသတ္တိက လွန်စွာကြီးမား လှပေ၏။ အရာရာတွင် သူကို့ကပင် ဦးဆောင်နေကြသည်။

ရုပ်ကိုမှီ၍ အသိသဘောတွေ ဖြစ်နေကြ၏။ နာမ်သဘောတွေ ဖြစ်နေကြသည်။ ထိုနာမ်ကဦးဆောင်၍ ရုပ်တရားတွေက နောက်မှလိုက်နေကြရသည်။

**အရေးကြီးသော ၆–ဌာန ဖြစ်ပေါ်လာ**

ရုပ်တရား၊ နာမ်တရားတို့ အမိဝမ်းမှာ ဖြစ်ပေါ်လာကြပြီးနောက် အမိဝမ်းမှာ ရက်သတ္တ(၁၁) ပတ်ခန့်ကြာလေပြီ။ ထိုအခါ ယခင်ရှိပြီး ရုပ်နာမ်များအပြင် နောက်ထပ်၍ မျက်စိ၊ နား၊ နှာခေါင်း၊ လျှာဟူသော အကြည် ရုပ်များ ဖြစ်ပွားလာကြပြန်၏။ သို့ဖြစ်၍ ယခင်ရှိပြီး ရုပ်နာမ် (သို့မဟုတ်ကိုယ်စိတ်) နှင့်တကွ စုစုပေါင်း(၆)မျိုး ဖြစ်လာကြသည်။ ၆-မျိုးကား (မျက်စိ၊

နား၊ နှာခေါင်း၊ လျှာ၊ ကိုယ်၊ စိတ်)တို့ဖြစ်ကြ၏။ "သဠာယတန"ဟု ခေါ်သည်။

ဤ၌ "မျက်စိ" "နား" "နှာခေါင်း" "လျှာ"စသည်ဖြင့် အတိုကောက် အဖျားဆွတ်၍ ဆိုသော်လည်း အပြည့်အစုံ သိရမည်မှာ "မျက်စိအကြည်" "နားအကြည်" "နှာခေါင်းအကြည်" "လျှာအကြည်" "ကိုယ်အကြည်" "စိတ်"ဟူ၍ သိမှတ်ရမည်ဖြစ်၏။ (ဤ ၆-မျိုးတွင် ရှေ့ ၅-မျိုးက ရုပ်၊ နောက်ဆုံးတစ်မျိုးက နာမ်ဖြစ်သည်)

ဤနည်းအားဖြင့် အမိဝမ်း၌ ရက်သတ္တ(၄၂)ပတ်ခန့် (၉-လကျော်ကျော်)အကြာတွင် နောက်ထပ်ပြီး ဆံပင်၊ မွေးညှင်း၊ ခြေသည်း၊ လက်သည်းကလေးများ ပြည့်စုံလာကြပြန်သည်။

ထို့နောက်(၁၀)လပြည့်ပြည့်သို့ အရောက်တွင် အမိဝမ်း၏ အပြင်ဘက်သို့ရောက်လာကာ လူတစ်လုံး၊ သူတစ်လုံး ဖြစ်၍လာတော့သည်။ (ဤသည်တို့ကား အဋ္ဌကထာဖွင့်များအရ ဖော်ပြခြင်းဖြစ်၏။)

**အတွင်းအာယတန ၆–ပါး**

ဤသို့ မျက်စိ၊ နား၊ နှာခေါင်း၊ လျှာ၊ ကိုယ်၊ စိတ်-ဟူ၍ (၆)မျိုးဖြစ်ပေါ်လာသည်ကို "သဠာယတန"ဟုဆို၏။ (ဆ+အာယတန၊ သ+အာယတန၊ ရွတ်ဆိုရာတွင် ချောမောပြေပြစ်ဖို့ရာ

အလယ်ခေါင်၌ "ဋ္ဌ"အက္ခရာ ဝင်ရောက်လာပြီးလျှင် "သဠာယတန" ဟု ဖြစ်လာသည်)

သ=၆-ခု၊ အာယတန=တည်ရာဌာန၊ သဠာယတန= တည်ရာဌာန ၆-ခု။ တစ်နည်းအားဖြင့် သ=၆-ခု၊ အာယတန=နာမ် တရားတို့ ဖြစ်ပေါ်လာဖို့ရာ အကြောင်း၊ သဠာယတန= နာမ် တရားတို့ဖြစ်ပေါ်လာဖို့ရာ အကြောင်း(၆)ခု။ အတိုကောက်အားဖြင့် "အာယတန (၆)ပါး"ဟု ခေါ်ရ၏။ ခန္ဓာကိုယ်နှင့်ဆက်စပ်နေ၍ အတွင်းပိုင်းကျတဲ့ ၆-ပါးဖြစ်သောကြောင့် "အတွင်းအာယတန(၆) ပါး" ဟူ၍ ခေါ်ကြသည်။

**အပြင်အာယတန ၆–ပါး**

အတွင်း အာယတန(၆)ပါးနှင့် တွဲဖက်ဖို့ရန် အပြင်ဘက် တွင်လည်း အာယတနများ(၆)ပါး အသင့်ရှိပြီးသား ဖြစ်ကြ၏။ ယင်းတို့ကား (အဆင်း၊ အသံ၊ အနံ့၊ အရသာ၊ တွေ့ထိစရာ၊ ကြံတွေးစရာ)တို့ ဖြစ်ကြသည်။

မျက်စိနှင့် တွဲဖို့ အဆင်း၊ နားနှင့်တွဲဖို့ အသံ၊ နှာခေါင်းနှင့် တွဲဖို့ အနံ့၊ လျှာနှင့်တွဲဖို့ အရသာ၊ ခန္ဓာကိုယ်နှင့်တွဲဖို့ တွေ့ထိစရာ၊ စိတ်နှင့်တွဲဖို့ရာ ကြံတွေးစရာတို့ဖြစ်ကြသည်။ ခန္ဓာကိုယ်၏ အပြင်ဘက်တွင် ကျရောက်နေတဲ့(၆)ပါး" ဖြစ်သောကြောင့် "အပြင်အာယတန(၆)ပါး" ဟူ၍ခေါ်ကြ၏။

အတွင်း အာယတန(၆)ပါး၊ အပြင် အာယတန(၆)ပါးရှိသောကြောင့် အာယတန (၁၂)ပါးရှိသည်။

**အပွင့်ခာတ် ၆–ပါး ပေါက်ပွားလာပုံ**

ဖော်ပြခဲ့ပြီး အတွင်းအာယတန(၆)ပါးကို "အခံခာတ်ဟုထား၍၊ အပြင် အာယတန ၆-ပါးကို "အတိုက်ခာတ်"ဟု ထားရသည်။ ယင်းအခံဓါတ်ပေါ်သို့ ဆိုင်ရာအတိုက်ခာတ်များကျရောက်ပါက "အပွင့်ခာတ်များ" ပေါက်ပွားရမြဲဖြစ်၏။

ဥပမာ-လက်ဝဲ လက်ဖဝါးကို အောက်ကအခံဓါတ်ထား၍ လက်ယာလက်ဖဝါးကို အတိုက်ခာတ်ပြုပြီးလျှင်အပေါ်ကနေပြီး တီးလိုက်ပါက "ဖောင်း"ကနဲ အသံအပွင့်ခာတ်ပေါ်လာရသည်။လင်းကွင်း ၂ ချပ်တီး၍ အသံထွက်လာပုံလည်းအတူတူဖြစ်၏။

အခံခာတ်က ပထမပစ္စည်း၊ အတိုက်ခာတ်က ဒုတိယပစ္စည်း၊ အပွင့်ခာတ်က တတိယပစ္စည်းဟု ခွဲခြားနိုင်ပါ၏။

ထို့ပြင် ယမ်းမီးခြစ်ဘူး ဘေးသားတွင် ယမ်းသုတ်ထား၍အခံခာတ် ပထမပစ္စည်း၊ မီးခြစ်ဆံချောင်းကလေးတွင် ယမ်းသုတ်ထား၍ အတိုက်ခာတ် ဒုတိယပစ္စည်း နှစ်ခုမဆုံကြသေးခင်ဘာမျှမဖြစ်၊ အခံခာတ်ပေါ်သို့ အတိုက်ခာတ် ထိခတ်လိုက်ပါက"ရှဲ"ကနဲ တတိယပစ္စည်းအနေဖြင့် မီးတောက်အပွင့်ခာတ် ပေါ်ပေါက်လာသည်။

ထို့အတူ "မျက်စိအကြည်"ဆိုတဲ့ အခံဓာတ်ပေါ်သို့ "အဆင်း"ဆိုတဲ့ အတိုက်ဓာတ်က ကျရောက်လာပါက "မြင်စိတ်" ဆိုတဲ့ အပွင့်ဓာတ် ပေါ်ပေါက်လာရတော့သည်။

အလားတူ "နားအကြည်"ဆိုတဲ့ အခံဓာတ်ပေါ်သို့ အသံဆိုတဲ့အတိုက်ဓာတ် ကျရောက်ပါက "ကြားစိတ်"ဆိုတဲ့ အပွင့်ဓာတ် ပေါ်ပေါက်လာရတော့သည်။

ဤသို့လျှင် နံစိတ်၊ စားစိတ်၊ တွေ့ထိစိတ်၊ ကြံတွေးစိတ် ဆိုတဲ့ အပွင့်ဓာတ် ဖြစ်ပွါးပေါ်ပေါက်လာရပုံကိုလည်း သိနိုင်ပါပြီ။ အပွင့်ဓာတ်များလည်း (၆)ပါး ရှိ၏။ ထိုအခါ အခံဓာတ် (၆)ပါး၊ အတိုက်ဓာတ် (၆)ပါး၊ အပွင့်ဓာတ် (၆)ပါးဟု ဖြစ်လာ၏။ ၆×၃=၁၈ ဖြစ်လာသည်။ ယင်းတို့ကို "ဓာတ်(၁၈)ပါး"ဟု ဆိုရသည်။

ဤကဲ့သို့ အပွင့်ဓာတ်များ ဖြစ်ပွါးပေါ်ပေါက်ရသည်မှာ သိကြားဒေဝါ၊ ဗြဟ္မာ၊ ဗိဿနိုး တန်ခိုးရှင်များက ဖန်ဆင်းကြ၍ မဟုတ်။ အကြောင်း(၂)ခု ဆုံကြသောကြောင့် အကျိုးဓမ္မအဖြစ်ဖြင့် ပေါ်ပေါက်လာကြခြင်းသာ ဖြစ်လေသည်။

**ပဋိစ္စသမုပ္ပါဒ်အစဉ်အတန်း**

သဠာယတနပစ္စယာ ဖဿော။ "အခံဓာတ်+အတိုက် ဓာတ်=အပွင့်ဓာတ်" ဤကဲ့သို့ ဓာတ်သုံးမျိုး ပေါင်းမိ ဆုံမိ ကြုံမိ

လာသည်ကို "ဖဿ"ဟု ခေါ်ပါသည်။ (တိဏ္ဏံ သင်္ဂတိ ဖဿော၊ တိဏ္ဏံ-သုံးခုတို့၏။ သင်္ဂတိ-ပေါင်းဆုံမိခြင်းသည်၊ ဖဿော-ဖဿ မည်၏)

ဖဿပစ္စယာ ဝေဒနာ။ ခေတ်သုံးမျိုး ဆုံမိကြသည့်အတွက် "ခံစားမှုဝေဒနာ" ဖြစ်ပေါ်လာရလေသည်။ ဤနည်းအတိုင်း ဝေဒနာကြောင့် တဏှာဖြစ်၊ တဏှာကြောင့် ဥပါဒါန်ဖြစ်၊ ဥပါဒါန်ကြောင့် ကမ္မဘဝဖြစ်ကြသည်ကိုလည်း သိနိုင်ကြပါပြီ။

ဤကမ္မဘဝသို့ရောက်လျှင် ကံမြောက်တော့၏။ ပစ္စုပ္ပန်ပဋိစ္စသမုပ္ပါဒ် အစဉ်အတန်းဖြစ်ပုံကို မြတ်စွာဘုရားက ဤသို့ဟောပြထားတော်မူသည် -

၁။ စက္ခုံစ ပဋိစ္စ ရူပေစ ဥပ္ပဇ္ဇတိ စက္ခုဝိညာဏံ၊ တိဏ္ဏံ သင်္ဂတိ ဖဿော၊

ဖဿပစ္စယာ ဝေဒနာ၊ ဝေဒနာပစ္စယာ တဏှာ၊ တဏှာပစ္စယာ ဥပါဒါနံ၊ ဥပါဒါနပစ္စယာ ဘဝေါ။

စက္ခုံစ-မျက်စိအကြည်ရုပ်ကိုလည်းကောင်း၊ ရူပေစ-အဆင်း ရူပါရုံတို့ကိုလည်းကောင်း၊ ပဋိစ္စ-စွဲ၍၊ စက္ခုဝိညာဏံ-မြင်စိတ်သည်၊ ဥပ္ပဇ္ဇတိ-ဖြစ်ပေါ်လာ၏။

တိဏ္ဏံ-(အခံ+အတိုက်+အပွင့်)ခေတ်သုံးခုတို့၏၊ သင်္ဂတိ-ပေါင်းဆုံမိခြင်းသည်၊ ဖဿော-ဖဿမည်၏။ ဖဿပစ္စယာ-ဖဿကြောင့်၊ ဝေဒနာ-ဝေဒနာသည်၊ ဟောတိ-ဖြစ်၏။

ဝေဒနာပစ္စယာ-ဝေဒနာကြောင့်၊ တဏှာ-တဏှာသည်၊ ဟောတိ-ဖြစ်၏။ တဏှာပစ္စယာ-တဏှာကြောင့်၊ ဉပါဒါနံ-ဉပါဒါန်သည်၊ ဟောတိဖြစ်၏။ ဉပါဒါနပစ္စယာ-ဉပါဒါန်ကြောင့်၊ ဘဝေါ-(ကမ္မဘဝ+ဉပပတ္တိဘဝဟူသော)ဘဝ(၂)မျိုးသည်၊ ဟောတိ-ဖြစ်၏။

၂။ သောတဉ္စ ပဋိစ္စ သဒ္ဒေစ. . . ။

၃။ ဃာနဉ္စ ပဋိစ္စ ဂန္ဓေစ. . . ။

၄။ ဇိဝှဉ္စ ပဋိစ္စ ရသေစ. . . ။

၅။ ကာယဉ္စ ပဋိစ္စ ဖောဋ္ဌဗ္ဗေစ. . . ။

၆။ မနဉ္စ ပဋိစ္စ ဓမ္မေစ. . . ။

ဘုရားရှင်ကိုယ်တော်မြတ်ကြီး ဟောတော်မူသော သုတ်တော်ပေါင်းများစွာတွင် ယခုဖော်ပြခဲ့ပြီးအတိုင်း ခန္ဓပဋိစ္စသမုပ္ပါဒ် တန်းပုံကိုပြရာ၌ ဒုတိယအကွက်နှင့် တတိယအကွက် တန်းပုံကိုသာ အပြများတော်မူ၏။ တစ်ခါတစ်ရံ၌သာလျှင် အပြည့်အစုံဖော်ပြဖို့ရန် (၄)ကွက်လုံး ဟောတော်မူပြသည်။

**အပင်မှ မျိုး၊ မျိုးမှအပင်**

ဤပဋိစ္စသမုပ္ပါဒ် ဒေသနာတော်အရ အကြောင်းတရားတွေကြောင့် အကျိုးတရားတွေ ဖြစ်ပေါ်လာရ။ ထိုအကျိုးတရားတွေထဲမှ တစ်ဖန် အကြောင်းတရားတွေ ပေါ်ပေါက်လာပြန်။ ယင်း

အကြောင်းတရားတွေကြောင့်ပင် တစ်ဖန် အကျိုးတရားတွေ ဖြစ်ပြန်ရ။ ဤနည်း ဤဟန်အတိုင်း အဝိုင်းကြီးသဖွယ် ချာချာလည် နေရတော့သည်ဟု သိရ၏။

အကြောင်းတရားတွေက ကံတရား၊ မျိုးစေ့နှင့်တူသည်။ အကျိုးတရားတွေက ရုပ်နာမ်များ၊ အပင်နှင့်တူသည်။

အပင်မှ မျိုး၊ မျိုးမှအပင် အစဉ်မပြတ်ဖြစ်ပျက်နေခြင်းမျှသာ ဖြစ်၏။ ဤကဲ့သို့ အစဉ်မပြတ် ဖြစ်ပျက်နေအောင် တန်ခိုးကြီးတဲ့ ဗြဟ္မာ၊ သိကြားစသည်များက ဖန်ဆင်းပေးနေသည်မဟုတ်။ ဖန်ဆင်းပေးလို့ လူနတ်များစွာ သတ္တဝါလို့ခေါ်နေရတဲ့အရာတွေ ဖြစ်နေရသည်မဟုတ်။

အမှန်မှာ ရုပ်နာမ်ဓမ္မ အကြောင်းတရားတွေကြောင့် ရုပ်နာမ်ဓမ္မ အကျိုးတရားတွေ သက်သက်မျှသာ ဖြစ်ပျက်နေကြခြင်းသာလျှင် ဖြစ်သည်။

(ဆောင်)

(က) အဝိဇ္ဇာနှင့်၊ တဏှာအရင်းခံ၊ ဥပါဒါန်၊ ကံကြောင့် ရုပ်နာမ်ပေါ်။

(ခ) အပင်မှမျိုး၊ မျိုးမှအပင်၊ အမျှင်မပြတ်၊ ဆက်စပ်သည့် ဟန်၊ ကံကြောင့် နာမ်ရုပ်၊ နာမ်ရုပ်ကြောင့်ကံ၊ အဖန်ဖန်၊ ဖြစ်ပြန်နည်း အလျော်။

(ဂ) ဖြူဟွာ၊ သိကြား၊ စသည်များက၊ ထင်ရှားပြုပြင်၊ စီရင် ဖန်ဆင်း၊ အကြောင်းရင်းကြောင့်၊ (မယွင်း ယူမှတ်)၊ လူနတ် များစွာ၊ သတ္တဝါတို့ ဖြစ်လာရမှု၊ မဟုတ်ဟု၊ ဉာဏ်ဖြင့်ရှု၍မြော်။

**အခ်ိပ္ပါယ်ဖြေရှင်းချက်များ**

ပဋိစ္စသမုပ္ပါဒ်စက်ဝိုင်းကြီးအတွင်း အကွက်ကြီး(၄)ကွက်တွင်(၁)အကွက်ထဲမှ အဝိဇ္ဇာနှင့်(၃)အကွက်ထဲမှ တဏှာ၊ ဥပါဒါန်၊ ကံလို့ခေါ်တဲ့ ကမ္မဘဝတို့က အကြောင်းတရား၊ မျိုးစေ့နှင့်တူ၏။ (ကမ္မဘဝကို ယူလိုက်လျှင်(၁)အကွက်ထဲမှ သင်္ခါရလည်း ပါလာပြီ) ထိုအကြောင်းတရားတို့ကြောင့်-

(၂) အကွက်ထဲမှာ ဝိညာဏ်၊ နာမ်ရုပ်စသော ငါးမျိုး အကျိုးတရား ရုပ်နာမ်တို့ ဖြစ်ပေါ်လာ၊ အပင်ကြီးနှင့်တူသည်။

ထိုအပင်ကြီးမှ တစ်ဖန်တဏှာ၊ ဥပါဒါန်၊ ကမ္မဘဝဆိုတဲ့ (၃)အကွက်ထဲက မျိုးတွေပေါက်ပွား၊ ထိုမျိုးတွေကြောင့်ပင်(၄) အကွက်ထဲမှာ ဇာတိ၊ ဇရာမရဏဆိုတဲ့ အပင်ကြီး ထပ်မံဖြစ် ပေါ်လာ။

ဤသို့လျှင် ချာလည်ပတ်ချာ အမျှင်မပြတ် ဆက်စပ် ဖြစ်ပေါ် နေကြသည်မှာ ဖြူဟွာ၊ သိကြားစသည်များက ဖန်ဆင်း

ထားလို့ဖြစ်ပေါ်နေကြသည်မဟုတ်။ အကြောင်းဓမ္မတွေကြောင့် အကျိုးဓမ္မတွေ သက်သက်မျှ ဖြစ်ပျက်နေကြခြင်းသာ ဖြစ်သည်ဟူလို။

**ပညတ်နှင့်ပရမတ်များ**

ဤဖော်ပြခဲ့ပြီးအတိုင်း အရာခပ်သိမ်းတို့သည် (ပဋိစ္စသမုပ္ပါဒ် သဘောအရ) အကြောင်းကြောင့် အကျိုးဖြစ်နေသောတရားများသာ ဖြစ်ကြ၏။ ရုပ်နဲ့နာမ်(၂)ပါးလုံး အကြောင်းကြောင့် အကျိုးဖြစ်သော တရားများဖြစ်သည်။

ရုပ်ဖြစ်ဖို့ အကြောင်းတရားက ကံ၊ စိတ်၊ ဥတု၊ အာဟာရဟူ၍(၄)ပါး၊ နာမ်ဖြစ်ဖို့အကြောင်းတရားက အာရုံနဲ့ ဒွါရ(၂)ပါးတို့ဖြစ်ကြ၏။ သို့ဖြစ်၍ အကြောင်းတရား(၆)ပါးကြောင့် ရုပ်နာမ်ဟူသော အကျိုးတရားများ ဖြစ်ပေါ်နေကြသည်။

ရုပ်နာမ်(၂)ပါးဖြစ်ပေါ်နေကြ၏။ အကျယ်ခဲ့လျှင် ခန္ဓာ(၅)ပါး ဖြစ်ပေါ်နေကြ၏။ ထိုခန္ဓာ(၅)ပါးတွင် မျက်စိ၊ နား၊ နှာခေါင်း၊ လျှာ၊ ကိုယ်၊ စိတ်တို့မှ မြင်စိတ်၊ ကြားစိတ်၊ နံစိတ်၊ စားစိတ်၊ တွေ့ထိစိတ်၊ ကြံတွေးစိတ်တို့ ဖြစ်ပေါ်နေကြသည်။

ထိုတရားတို့သည်သာလျှင် အမှန်ဖြစ်ပေါ်နေကြ၏၊ ထို့ကြောင့် ထိုတရားတို့ကို “ပရမတ်”ဟု ခေါ်ကြရသည်။

သို့ရာတွင် အမြင်မှားသူတို့ကမူ ထိုရုပ်နာမ်(၂)ပါး၊ ခန္ဓာ (၅)ပါးကို ပုဂ္ဂိုလ်၊ သတ္တဝါ၊ ငါ၊ သူတစ်ပါး၊ ယောကျ်ား၊ မိန်းမ၊ လူ၊ နတ်၊ ဗြဟ္မာစသည်အားဖြင့် သမုတ်၍ အဟုတ်ထင်မှတ် နေကြ၏။ ဦးနီ၊ ဦးဖြူ၊ မောင်နီ၊ မောင်ဖြူ၊ မပု၊ မနု၊ မအု၊ သမီး၊ သား၊ မြေး၊ မြစ်စသည်သမုတ်၍ အဟုတ်ထင်မှတ်နေကြ၏။

စင်စစ်ကား ထိုသို့သမုတ်သမျှ၊ သတ်မှတ်သမျှ မှည့်သမျှ ပညတ်မျှသာဖြစ်သည်။ အမှန်ရှိသည်ကားမဟုတ်။ အစစ်အမှန်ရှိ သည့်အပေါ်တွင်သာ အစစ်အမှန်မရှိသောအရာများ တင်စား၍ ထင်မှားနေခြင်းမျှသာ ဖြစ်၏။ "ပညတ်များ"ဟု ဆိုရသည်။

ထိုတွင် အစစ်အမှန်ရှိသော ရုပ်နာမ်(၂)ပါး၊ ခန္ဓာ(၅)ပါး တို့က "ပရမတ်"အစစ်အမှန်မရှိသော ပုဂ္ဂိုလ်၊ သတ္တဝါ၊ ငါ၊ သူတစ်ပါး၊ ယောကျ်ား၊ မိန်းမ-စသည်အားဖြင့် သမုတ်မှည့်ခေါ် ခြင်းတို့က "ပညတ်"တို့ ဖြစ်ကြ၏။ ဤကဲ့သို့ ကွဲကွဲပြားပြား ခွဲခြား နားလည်မှသာ "သမ္မာဒိဋ္ဌိ = အမှန်မြင်"ဖြစ်သည်။

**ဝိပလ္လာသ = အထင်မှား အမြင်မှား**

ဤကဲ့သို့ ရုပ်တရား၊ နာမ်တရား မကွဲပြားလျှင် ပညတ် ပရမတ်လည်း မကွဲပြားနိုင်။ ထိုသို့ မကွဲပြားဘဲ ဖြစ်၍နေကြလျှင် ပုဂ္ဂိုလ်သတ္တဝါတွေ ထင်နေမိတတ်ကြ၏။ အရိပ်ကို အကောင်

ထင်နေသလို ဖြစ်ကြတော့သည်။ ယင်းသို့အထင်မှား အမြင်မှား ဖြစ်နေမှုကို “ဝိပလ္လာသ”ဟု ဆိုရသည်။

ဝိပလ္လာသသည် တံတိုင်းကြီးသဖွယ် ထုထည်ကြီးမား ထူထပ်စွာဖြင့် ကာကွယ်ထားတတ်သည်။ အမြင်မှန်မရအောင် ထင်ယောင်မှားမှုတို့ဖြင့် ကာကွယ်ထားတတ်ကြ၏။ ထိုသို့ ကာကွယ်ထားကြသောအခါ အထင်မှားအမြင်မှား၊ အမှတ်မှား ဖြစ်လာကြတော့သည်။

(က) အမှတ်မှားနေလျှင် သညာဝိပလ္လာသ၊

(ခ) အသိပါမှားလျှင် စိတ္တဝိပလ္လာသ၊

(ဂ) အယူအဆပါမှားလျှင် ဒိဋ္ဌိဝိပလ္လာသဖြစ်ကြ၏။

မြတ်စွာဘုရား ဟောထားသော (အနိစ္စ၊ ဒုက္ခ၊ အနတ္တ၊ အသုဘ)ဟူ၍ အခြေခံကြီး ၄-မျိုးရှိရာ တစ်ခုတစ်ခုအပေါ်၌ ဝိပလ္လာသ ၃-မျိုးဖြင့် အထင်မှားတတ်ကြသည်။

၁။ အနိစ္စကို နိစ္စလို့ အမှတ်မှား၊ မသိမှား၊ အယူမှား၊

၂။ ဒုက္ခကို သုခလို့ အမှတ်မှား၊ အသိမှား၊ အယူမှား၊

၃။ အနတ္တကို အတ္တလို့ အမှတ်မှား၊ အသိမှား၊ အယူမှား၊

၄။ အသုဘကို သုဘလို့ အမှတ်မှား၊ အသိမှား၊ အယူမှား

ဤကဲ့သို့ ပွားသောကြောင့် ဝိပလ္လာသ(၁၂)ပါးဖြစ်ရလေသည်။

## အရှုခံတရားနဲ့ ရှုဉာဏ်များ

"အရှုခံတရား" ဆိုတာ အကျဉ်းအားဖြင့် ရုပ်, နာမ်(၂)ပါး၊ အကျယ်ချဲ့လျှင် ခန္ဓာငါးပါးဖြစ်၏။ ယင်းတို့သည် အရှုခံတရားများဖြစ်ကြသည်။ သို့သော် တကယ်ရှုပြီဆိုတဲ့အခါ ရုပ်နာမ်(၂)ပါး၊ ခန္ဓာ(၅)ပါးလုံးကို တစ်ပြုံကြီး၊ တစ်အုံကြီးရှုရသည်မဟုတ်။ ကိုယ်နဲ့လိုက်တဲ့ ကြိုက်ရာကမ္မဋ္ဌာန်း တစ်ခုခုကို ရှုရသည်။

"ရှုဉာဏ်များ" ဆိုသည်ကား(၅)ပါးရှိ၏။ ယင်းတို့ကား သမ္မာဒိဋ္ဌိ၊ သမ္မာသင်္ကပ္ပ၊ သမ္မာဝါယာမ၊ သမ္မာသတိ၊ သမ္မာသမာဓိတို့ဖြစ်ကြသည်။ လောကီမဂ္ဂင်(၅)ပါး ဖြစ်ကြ၏။

အင်္ဂါ(၅)ပါးရှိလို့ "ပဉ္စင်္ဂိကမဂ်"ဟုလည်း ခေါ်ရ၏။ ဝိပဿနာ ရှုရတဲ့မဂ်ဖြစ်လို့ "ဝိပဿနာမဂ်"၊ ဟုတ်တိုင်းမှန်စွာ သိတဲ့ဉာဏ်မို့ "ယထာဘူတဉာဏ်"၊ လောကုတ္တရာမဂ်အစစ်ကြီး မလာခင် ရှေးဦးစွာ ကြိုတင်၍ လာရသော မဂ်ဖြစ်သောကြောင့် "ပုဗ္ဗဘာဂမဂ်"ဟုလည်း အသီးသီးခေါ်ကြ၏။ ရှုတဲ့ဉာဏ်များဖြစ်ကြသည်။

### ခန္ဓာငါးပါး အရှုခံ တရား

၁။ ရူပက္ခန္ဓာ = ဖောက်ပြန်မှု သဘောတရားအစု။ (တရားရှုရမည့် ရုပ်ခန္ဓာဆိုတာ အတုံးအခဲကြီးမဟုတ်။ ဖောက်ပြန်နေမှု သဘော(တရားအစုကိုသာ ရှုရမည်ဟူလို)

၂။ ဝေဒနာက္ခန္ဓာ = ကောင်း၊ မကောင်းခံစားမှု သဘောတရားအစု။ (သုခဝေဒနာနှင့် ဒုက္ခဝေဒနာကို ဆိုလိုသည်။ ဥပေက္ခာဝေဒနာ မပါသေး)

၃။ သညာက္ခန္ဓာ = မှတ်သားမှု သဘောတရားအစု။ (အဖြူ အနီ၊ အစိမ်း၊ အဝါ စသည်အားဖြင့် မှတ်သားမှု)

၄။ သင်္ခါရက္ခန္ဓာ = စေ့ဆော်မှုစေတနာ သဘောတရားအစု။ (တရားရှု၍ ဖြစ်ရုံမျှ စေတနာတစ်မျိုးတည်း ပြခြင်းဖြစ်၏။ အမှန်မှာ ဤခန္ဓာ၌ စေတသိက် ၅၀ ရှိသည်)

၅။ ဝိညာဏက္ခန္ဓာ = သိမှုစိတ်ကလေး သဘောတရားအစု။ (ရှိသမျှ ပြောရလျှင် စိတ်ပေါင်း ၈၉ ပါး)

**ခန္ဓာ ၅ ပါးကို သတိပဋ္ဌာန် ၄ ပါးဖြင့် ခွဲဝေ**

| | | |
|---|---|---|
| ၁။ ရူပက္ခန္ဓာ | - | ကာယာနုပဿနာ။ |
| ၂။ ဝေဒနာက္ခန္ဓာ | - | ဝေဒနာနုပဿနာ။ |
| ၃။ သညာက္ခန္ဓာနှင့် | } | ဓမ္မာနုပဿနာ။ |
| ၄။ သင်္ခါရက္ခန္ဓာ | } | ဓမ္မာနုပဿနာ။ |
| ၅။ ဝိညာဏက္ခန္ဓာ | - | စိတ္တာနုပဿနာ။ |

ဤသို့ခွဲဝေပုံလိုက်သောအခါ ခန္ဓာ ၅ ပါးသည် သတိပဋ္ဌာန် ၄ ပါးပေါ်လာ၏။ ကာယာနုပဿနာသတိပဋ္ဌာန်၊ ဝေဒနာနုပဿနာ သတိပဋ္ဌာန်၊ ဓမ္မာနုပဿနာ သတိပဋ္ဌာန်၊ စိတ္တာနုပဿနာ သတိပဋ္ဌာန်တို့ ဖြစ်ကြသည်။

## ကိုယ့်စရိုက်နှင့်လိုက်တဲ့ ကမ္မဋ္ဌာန်းရွေး

(က) ဉာဏ်ထိုင်း၍ + လောဘများလျှင်-ကာယာနုပဿနာရှု။
(ခ) ဉာဏ်ထိုင်း၍ + ဒိဋ္ဌိများလျှင် - စိတ္တာနုပဿနာရှု။
(ဂ) ဉာဏ်ထက်၍ + လောဘများလျှင်-ဝေဒနာနုပဿနာရှု။
(ဃ) ဉာဏ်ထက်၍+လောဘနည်းပါးလျှင် ဓမ္မာနုပဿနာရှု

(မဟာဝဂ္ဂ အဋ္ဌကထာ - ၃၆၇)

## မဂ္ဂင်ငါးပါးရှုဉာဏ်များ

## (လောကီ)

၁။ သမ္မာဒိဋ္ဌိ = မှန်ကန်သောအမြင် } ပညာမဂ္ဂင်
၂။ သမ္မာသင်္ကပ္ပ = မှန်ကန်သောအကြံအစည် } (၂)ပါး
၃။ သမ္မာဝါယာမ = မှန်ကန်သော လုံ့လဝီရိယ } သမာဓိ
၄။ သမ္မာသတိ = မှန်ကန်သောသတိ } မဂ္ဂင်
၅။ သမ္မာသမာဓိ = မှန်ကန်သော တည်ကြည်မှု } (၃) ပါး

## မဂ္ဂင်ရှစ်ပါး ရှုဉာဏ်များ

## (လောကုတ္တရာ)

၁။ သမ္မာဒိဋ္ဌိ = မှန်ကန်သောအမြင် } ပညာမဂ္ဂင်
၂။ သမ္မာသင်္ကပ္ပ = မှန်ကန်သောအကြံအစည် } (၂)ပါး
၃။ သမ္မာဝါယာမ = မှန်ကန်သော လုံ့လဝီရိယ } သမာဓိ
၄။ သမ္မာသတိ = မှန်ကန်သောသတိ } မဂ္ဂင်
၅။ သမ္မာသမာဓိ = မှန်ကန်သော တည်ကြည်မှု } (၃) ပါး

| | | | |
|---|---|---|---|
| ၆။ | သမ္မာဝါစာ | = မှန်ကန်သော ပြောဆိုမှု | သီလ |
| ၇။ | သမ္မာကမ္မန္တ | = မှန်ကန်သောပြုလုပ်မှု | မဂ္ဂင် |
| ၈။ | သမ္မာအာဇီဝ | = မှန်ကန်သော အသက်မွေး ဝမ်းကျောင်းမှု | (၃)ပါး |

**စတင်အားထုတ်သူ၏ လုပ်နည်းစဉ်**

မြတ်စွာဘုရား သာဝတ္ထိပြည်၊ ဇေတဝန်ကျောင်းတော်မှာ သီတင်းသုံးတော်မူခိုက်ဖြစ်၏။ အရှင်ဗာဟိယ ကိုယ်တော်က "တပည့်တော် တရားရနိုင်လောက်အောင် တရားကလေးတစ်ပုဒ် အကျဉ်းချုပ် ဟောပေးတော်မူပါဘုရား"ဟူ၍ တောင်းပန်သည်။ ထိုအခါတွင် မြတ်စွာဘုရားက ရှေးဦးအစ ယခုမှ စတင်အားထုတ်သူအတွက် အစီအစဉ်နှင့်တကွ ဟောပြောတော်မူ၏-

"တသ္မာတိဟ တွံ ဗာဟိယ အာဒိမေဝ
ဝိသောဓေဟိ ကုသလာနံ ဓမ္မာနံ၊
သီလဉ္စ သုဝိသုဒ္ဓံ ဒိဋ္ဌိစ ဥဇုကာ"

"ဗာဟိယ. . . ထိုသို့ တရားရလိုလျှင် သင်သည် ကုသိုလ်တရားတို့၌ ဦးစွာအစ ဖြူလွှစင်ကြယ်အောင် သုတ်သင်ပါဦး၊ ကုသိုလ်တရားတို့၏ ဦးစွာ အစဆိုသည်ကား အဘယ်နည်း. . ."

(၁) သီလစင်ကြယ်ရခြင်းနှင့်

(၂) အယူဖြောင့်မှန်ခြင်း တို့ဖြစ်၏။

"ယတောစ ခေါ တေ ဗာဟိယ သီလဉ္စ
သုဝိသုဒ္ဓံ ဘဝိဿတိ ဒိဋ္ဌိစ ဥဇုကာ၊
တတော တွံ ဗာဟိယ သီလံ နိဿာယ
သီလေ ပတိဋ္ဌာယ စတ္တာရော သတိပဋ္ဌာနေ
ဘာဝေယျာသိ"

ဗာဟိယ. . . သီလက အလွန်စင်ကြယ်၍ အယူကလည်း ဖြောင့်မှန်ပြီဆိုလျှင် သတိပဋ္ဌာန်လေးပါး (တစ်ပါးပါး)ကို ပွားများအားထုတ်ရာ၏။ ပေ။ ဤသို့ပွားများပါလျှင် ကုသိုလ်တရားတို့၌ တိုးတက်ဖို့သာ ရှိတော့၏။ ဆုတ်ယုတ်ဖို့ မရှိတော့။

**အဆင့်တွေ ကျော်တက်၍မရနိုင်**

အရှင်ဗာဟိယရဟန်းက ဤသဘောမျိုးသွား၍ တောင်းပန်လျှောက်ထားရာတွင်လည်း ဤလမ်းစဉ်အတိုင်းပင် ဘုရားရှင်က ဟောပြတော်မူသည်။ ထိုမှတစ်ဖြာ တစ်ခါတုန်းက အညတရ ရဟန်းတစ်ပါးသွား၍ လျှောက်ထားစဉ်ကလည်း ဤနည်းလမ်းစဉ်ကိုပင် ဟောပြတော်မူ၏။

ထို့ကြောင့် တရားရချင်သူများ အလောတကြီးဖြင့် အဆင့်ကျော်တက်ချင်၍မရ၊ အစဉ်အတိုင်း အခြေခံမှစ၍ ပြည့်စုံစေရပါမည်။ သို့ဖြစ်၍ နံပါတ်(၁)အင်္ဂါအတွက်-"သီလစင်ကြယ်ရမယ်" ဆိုတာ ရှင်းပါ၏။

လူလဲ လူ့သီလ လုံခြုံရမည်၊ အနည်းဆုံး ငါးပါးသီလလုံရမည်။ သီလရှင်ဆိုလျှင် (၈)ပါး၊ သာမဏေ ဆိုလျှင် (၁၀)ပါးလုံကြရမည်။ ရဟန်းဆိုလျှင် အကျဉ်းအားဖြင့်(၂၂၇)သွယ်၊ အကျယ်ဆိုလျှင် ကုဋေကိုးထောင်ကျော် လုံစေရမည်။ ဤအတွက်ရှင်းပါ၏။

နံပါတ်(၂)အင်္ဂါအတွက် (ဒိဋ္ဌိစ ဥဇုကာ) "အယူဖြောင့်မှန်ရမယ်" ဆိုတာ ဘယ်လိုဖြောင့်မှန်ရမှာလဲ။ ဒိဋ္ဌိစင်ကြယ်ရမှာကို ဆိုလိုသည်။

**အရေးကြီးတဲ့ ဒိဋ္ဌိသုံးမျိုး**

ဒိဋ္ဌိသည် သမ္မာဒိဋ္ဌိနှင့် မိစ္ဆာဒိဋ္ဌိဟူ၍ (၂)မျိုးရှိ၏။ (သမ္မာ-မှန်ကန်သော၊ ဒိဋ္ဌိ=အမြင်၊ မိစ္ဆာ = မှားယွင်းသော၊ ဒိဋ္ဌိ = အမြင်) ထို(၂)မျိုးတွင် ဤနေရာ၌ မိစ္ဆာဒိဋ္ဌိကို ဖော်ပြပါမည်။

မိစ္ဆာဒိဋ္ဌိ အမျိုးအစား(၆၂)ပါးရှိ၏။ ယင်း(၆၂)ပါးတို့ကို ချုံးလိုက်လျှင် သဿတဒိဋ္ဌိ၊ ဥစ္ဆေဒဒိဋ္ဌိ၊ သက္ကာယဒိဋ္ဌိ၊ ဤ(၃)မျိုးတွင် အကုန်အကျုံးဝင်ကြသည်။

၁။ သဿတဒိဋ္ဌိ = ခိုင်သည် မြဲသည်ဟု ယူဆသောဒိဋ္ဌိ၊

၂။ ဥစ္ဆေဒဒိဋ္ဌိ = ပျက်စီးပြီးလျှင် လုံးဝပြတ်သွားသည်ဟု ယူဆသောဒိဋ္ဌိ၊

၃။ သက္ကာယဒိဋ္ဌိ = အစစ်အမှန်ရှိသော သက္ကာယအပေါ်၌ အစစ်အမှန်မရှိသော ပညတ်များ တင်စား၍ ထင်မှားနေသော ဒိဋ္ဌိ။

## ဒိဋ္ဌိသုံးမျိုးရဲ့ သဘောအဓိပ္ပါယ်

အကျယ်ချဲ့၍ ပြောပါဦးမည်။ မိမိတို့မှာ ခန္ဓာငါးပါးရှိကြ၏။ ရူပက္ခန္ဓာ၊ ဝေဒနာက္ခန္ဓာ၊ သညာက္ခန္ဓာ၊ သင်္ခါရက္ခန္ဓာ၊ ဝိညာဏက္ခန္ဓာ တို့ဖြစ်ကြသည်။

ဤခန္ဓာငါးပါးတို့ကို ချုံးလိုက်လျှင် ရုပ်နှင့်နာမ် ၂-ပါးသာဖြစ်သွား၏။ ထို့ကြောင့် ရုပ်နာမ် ၂-ပါး ဆိုတာနဲ့ ခန္ဓာငါးပါးဆိုတာ အတူတူပင်ဖြစ်သည်။

(၁) အချို့ကား ယူဆကြသတဲ့၊ ဤရုပ်နာမ်(၂)ပါး၊ ခန္ဓာငါးပါးကြီး ပျက်စီးသွားပြီဆိုလျှင် ရုပ်ခန္ဓာကြီးက ကျန်ရစ်၏။ မြေမြှုပ်ရ၏။ မီးရှို့ရ၏။ ရေမျှောရ၏။

နာမ်ခန္ဓာတွေကတော့ ထိုသို့ အပြုမခံ၊ ဆိုင်ရာဘဝသို့ ကူးသွားကြသည်။ အထူးသဖြင့် ဝိညာဏ်ဆိုတဲ့ စိတ်ကလေးက ဆိုင်ရာဘဝသို့ ကူးပြောင်းသွားသည်ဟု ယူဆကြ၏။

သို့ဖြစ်လျှင် ဝိညာဏ်ကလေးက မသေဘဲ မြဲနေသည်ဟု အဓိပ္ပါယ်ရောက်နေသည်။ ထိုသို့ မြဲနေသည်၊ ခိုင်နေသည်ဟု ယူဆလျှင် သဿတဒိဋ္ဌိဖြစ်နေပြီ။ (သဿတ၊ ခိုင်မြဲနေသော၊ ဒိဋ္ဌိ= အမြင်၊ အယူအဆ)

(၂) အချို့ပုဂ္ဂိုလ်တို့ကား ရုပ်နာမ် ၂-ပါး၊ ခန္ဓာငါးပါးကြီးပျက်စီးသွားလျှင်(ဝါ)သေသွားလျှင် ပြတ်ပြီ။ နောက်ထပ် အဆက်အစပ်မရှိ

ငါမဟုတ်ဘဲနဲ့ ငါထင်နေတာ၊ သူမဟုတ်ဘဲနဲ့ သူထင်နေတာ တွေ သက္ကာယဒိဋ္ဌိ ဖြစ်နေတာပေါ့၊ ယောကျ်ား မဟုတ်ဘဲနဲ့ ယောကျ်ားလို့ထင်၊ မိန်းမမဟုတ်ဘဲနဲ့ မိန်းမလို့ ထင်နေတာလဲ သက္ကာယဒိဋ္ဌိပဲပေါ့။

**ခတ်သားပေါ်တွင် အရိပ်ထင်သို့**

အမှန်က ရုပ်နာန် ၂-ပါး၊ ခန္ဓာငါးပါးမျှသာ ရှိတာ၊ ငါ-သူ၊ ယောကျ်ား-မိန်းမ၊ သား-သမီး၊ မြေး-မြစ်၊ တူ-တူမစသည် မရှိပါဘူး။ မရှိဘဲလျက် အထင်မှားနေကြတာ။

ရှိတဲ့အပေါ်မှာ မရှိတာတွေ တင်စားပြီး ထင်မှားတာပေါ့၊ အဲဒါက သက္ကာယဒိဋ္ဌိပဲ။

တရားအားထုတ်တဲ့သူဟာ အဲဒီဒိဋ္ဌိတွေကို ဦးစွာပထမ အသိဉာဏ်နဲ့ (ဉာတပရိညာနဲ့)ဖယ်ရှားပါဦးတဲ့၊ ပြီးမှ တရားအား ထုတ်ပါတဲ့။

"ဒိဋ္ဌိ မဂ္ဂါမိဂမသ္သ နီဝရဏံ"ဆိုတဲ့အတိုင်း ဒိဋ္ဌိအယူသည် မဂ်ရဖို့ လမ်းခရီးမှာ အဟန့်အတားပဲ။

လူတစ်ယောက်ကို ဓါတ်ပုံရိုက်လို့ထင်လာတဲ့ အရုပ်ဟာ အလင်းတို့၊ အမှောင်တို့၊ အရောင်တို့နဲ့ အချိုးအဆ ညီမျှစွာ ပေါင်းစပ်ပြီးတော့ အစက်အပြောက်ကလေးပေါင်းများစွာတို့ဖြင့် တည်ဆောက်ထားတာဖြစ်တယ်။

လူတစ်ယောက်၏ မျက်နှာပြင်တစ်ကွက်ပေါ်မှာ အစက်ကလေးပေါင်းများစွာ၊ အပြောက်ကလေးပေါင်းများစွာတို့ဖြင့် ပေါင်းစပ်ပြီး ပုံဖော်ထားတာပေါ့။ ဒီတော့ အမှန်ရှိတာက အစက်အပြောက်ကလေးတွေမျှသာ ရှိပါတယ်။

အဲဒီ အစက်အပြောက်ကလေးတွေကို မြင်အောင်ကြည့်နိုင်ယင် ယောက်ျားပုံ၊ မိန်းမပုံ မရှိတော့ပါဘူး၊ အစက်အပြောက်ကလေး တွေသာလျှင် ရှိပါတော့တယ်။

ထို့အတူ မျက်နှာ၊ နှာခေါင်း၊ ခါး၊ ခြေလက်ပုံသဏ္ဌာန်တို့လည်း မရှိတော့ပါဘူး၊ အစက်အပြောက်ကလေးတွေပဲ ရှိပါတော့တယ်။

အစက်အပြောက်ကလေးတွေ စုပေါင်းထားတာကိုပဲ "ဒါ-ယောက်ျား၊ ဒါ-မိန်းမ"လို့ သတ်မှတ်ပြတာ၊ သမုတ်ပြတာ၊ ပညတ်ပြတာပဲရှိတယ်၊ တကယ်ယောက်ျား၊ မိန်းမ၊ ပုဂ္ဂိုလ်၊ သတ္တဝါ မရှိပါဘူး။

အဲဒီလို စိတ်ဖြာပြီး ကြည့်လျှင် သက္ကာယဒိဋ္ဌိ စင်နိုင်တော့တာပဲ။

**သစ္စာလေးပါး အမှန်တရား**

၁။ ဒုက္ခသစ္စာ = ဆင်းရဲခြင်းအမှန်တရား။(ဖြစ်ဒုက္ခ၊ ပျက်ဒုက္ခ) ပိုင်းခြားသိရမည့်တရား။

၂။ သမုဒယသစ္စာ= ဒုက္ခဖြစ်ကြောင်းအမှန်တရား။ (တဏှာ၊ လောဘ)ပစ်ပယ်ရမည့်တရား။

၃။ နိရောဓသစ္စာ = သမုဒယနှင့် ဒုက္ခခပ်သိမ်းချုပ်ငြိမ်းရာ အမှန်တရား။ (နိဗ္ဗာန်) မျက်မှောက်ပြုရမည့်တရား။

၄။ မဂ္ဂသစ္စာ = (က) ဒုက္ခသစ္စာ၏ ချုပ်ကြောင်း။ (ခ) သမုဒယသစ္စာကိုပယ်ကြောင်း အကျင့်မှန်တရား။ (မဂ္ဂင်ရှစ်ပါး) ပွားများရမည့်တရား။

**ပဓာနိယင်္ဂအင်္ဂါငါးပါး**

**ကမ္မဋ္ဌာန်းအားထုတ်သူ ပြည့်စုံရမည့် အင်္ဂါ ၅–ပါး**

သဒ္ဓေါ ဟောတိ အပ္ပါဗာဓော အမာယာဝီ
ဝီရိယော ပညဝါ ဟောတိ ဣမေ ပဉ္စ ပဓာနိယင်္ဂနာမကာ။
(မဇ္ဈိမပဏ္ဏာသပါဠိ-၂၉၈)

၁။ သဒ္ဓေါ ဟောတိ = ရတနာသုံးပါးနှင့် တရားလုပ်ငန်းအပေါ် ယုံကြည်မှုရှိရခြင်း၊

၂။ အပ္ပါဗာဓော = အနာရောဂါကင်းရှင်း ကျန်းမာခြင်းနှင့် ပြည့်စုံသူဖြစ်ရခြင်း၊

၃။ အမာယာဝီ = မာယာကင်းရှင်း စိတ်နှလုံးဖြောင့်စင်းသူ ဖြစ်ရခြင်း၊
၄။ ဝီရိယော = လုံ့လထန်ပြင်း ဇွဲမာန်တင်းသူ၊ ကြိုးစားအားထုတ်သူ ဖြစ်ရခြင်း၊
၅။ ပည ဝါ ဟောတိ = ရုပ်နာမ်ဖြစ်ပျက်ကို မြင်နိုင်လောက်သော ဉာဏ်ရည် ဉာဏ်စွမ်းရှိရခြင်း၊

ကမ္မပဉ္စ - ဤငါးပါးတို့သည်၊ ပဓာနိယင်္ဂနာမကာကမ္မဋ္ဌာန်း အားထုတ်သူတို့ ပြည့်စုံရမည့် အင်္ဂါတို့မည်ကုန်၏။

(ဆောင်)

ယုံကြည်-ကျန်းမာ၊ စိတ်ဖြောင့်စွာနှင့်၊
လွန်စွာအားထုတ်၊ နာမ်နှင့်ရုပ်ကို၊
ဖြစ်ချုပ် ဉာဏ်မြင်၊ ဤငါးအင်၊
အမှန်ပင်မဂ်ရကြောင်း။

**ပုဗ္ဗကိစ္စဆိုင်ရာများ**

"ဝိပဿနာအလုပ် အားထုတ်တော့မည်" ဆိုလျှင် အားမထုတ်မီ ပုဗ္ဗကိစ္စများပြုသင့်ကြသေး၏။ (ပုဗ္ဗကိစ္စ = ရှေးဦးစွာပြုသင့်သောကိစ္စများ။)

"တေနယောဂိနာ ကမ္မဋ္ဌာနဒါယကံ
ကလျာဏမိတ္တံ ဥပသင်္ကမိတွာ" တိ

ဇတ္တ ဝုတ္တာနယေနေဝ ဝုတ္တာပ္ပကာရံ
ကလျာဏမိတ္တံ ဥပသင်္ကမိတွာ
ဗုဒ္ဓဿ ဝါ ဘဂဝတော အာစရိယဿဝါ
အတ္တာနံ နိယျာတေတွာ သမ္ပန္နဇ္ဈာသယေန
သမ္ပန္နာဓိမုတ္တိနာ စ ဟုတွာ ကမ္မဋ္ဌာနံ ယာစိတဗ္ဗံ။
(ဝိသုဒ္ဓိမဂ်၊ ပ၊ ၁၁၁)

"တရားအားထုတ်သော ယောဂီပုဂ္ဂိုလ်သည် ကမ္မဋ္ဌာန်းပေးနိုင်သော သူတော်ကောင်းပုဂ္ဂိုလ်ထံ ချဉ်းကပ်၍" ဟူသော စကားအရ-

"ကမ္မဋ္ဌာန်းဆရာထံ ချဉ်းကပ်၍ မိမိကိုယ်ကို မြတ်စွာဘုရားအား သော်လည်းကောင်း၊ ကမ္မဋ္ဌာန်းဆရာအားသော်လည်း-ကောင်း အပ်နှံပြီးလျှင် ကမ္မဋ္ဌာန်းတောင်းသင့်၏" ဟူသော ဝိသုဒ္ဓိမဂ်စကားကို ထောက်ထားကြပြီးလျှင် ရှေးဆရာတော်ကြီးများက အောက်ပါအတိုင်း စီမံထားကြလေသည်။ နှုတ်တက်အရ ကျက်ကြပြီးလျှင် ကမ္မဋ္ဌာန်းခွင်ဝင်တိုင်း တရားအားထုတ်ခါနီးတိုင်း၊ ရှေးဦးစွာဆိုကြရမည်ဖြစ်သည်။

**၁။ ရတနာသုံးပါး ဝပ်တွားရှိခိုး**

နမော ဗုဒ္ဓဿ၊ နမော ဓမ္မဿ၊
နမော သံဃဿ၊ နမော အာစရိယဿ။

ဗုဒ္ဓဿ - မြတ်စွာဘုရားအား၊ နမော-ရှိခိုးပါ၏။
ဓမ္မဿ - တရားတော်မြတ်အား၊ နမော-ရှိခိုးပါ၏။
သံဃဿ- သံဃာတော်မြတ်အပေါင်းအား၊ နမော-ရှိခိုးပါ၏။

အာစရိယဿ- ဝိပဿနာတရားတော်မြတ်ကို ဟောကြားပေးတော်မူသော မိုးကုတ်ဆရာတော်ဘုရားကြီးအား၊ နမော-ရှိခိုးပါ၏။

**၂။ တောင်းပန်ကန်တော့**

အကျွန်ုပ်သည် ဘဝအဆက်ဆက်၊ သံသရာအဆက်ဆက်မှ ယနေ့ကျအောင်အတွင်းတွေဝေခဲ့မိ၍ ရတနာသုံးပါး မိဘဘိုးဘွား၊ ဆရာများနှင့်တကွ ပုဂ္ဂိုလ်မွန် ပုဂ္ဂိုလ်မြတ်တို့အား ကံသုံးပါးတို့တွင် တစ်ပါးပါးသောကံဖြင့် အကယ်၍များ ပြစ်မှားမိခဲ့သည်ရှိသော် ထိုအပြစ်တို့မှ ပျောက်ပါစေခြင်း အကျိုးငှာ ရှိခိုးပါ၏။ ကန်တော့ပါ၏။ တောင်းပန်ပါ၏။ ဝန်ချပါ၏။

**၃။ မေတ္တာပို့ခြင်း**

အကျွန်ုပ်၏ ကိုယ်စောင့်နတ်မှအစပြု၍ အိမ်စောင့်နတ်၊ ကျောင်းစောင့်နတ်၊ မြို့ရွာစောင့်နတ်၊ သာသနာတော်စောင့်နတ်များနှင့်တကွ၊ အနန္တများစွာ သတ္တဝါအပေါင်းတို့သည်-

(က) ဘေးရန်ခပ်သိမ်း - ကင်းငြိမ်းကြပါစေ။

(ခ) ကြောင့်ကြခပ်သိမ်း - ကင်းငြိမ်းကြပါစေ၊

(ဂ) ဆင်းရဲခပ်သိမ်း - ကင်းငြိမ်းကြပါစေ။

(ဃ) နှလုံးစိတ်ဝမ်း - အေးချမ်းကြပါစေ။

(င) ကြံစည်သမျှ တောင့်တရာရာ - အဖြာဖြာတို့သည် လျင်မြန်ဆောစွာ ပြီးစီးအောင်မြင်ကြပါစေ. . .။

**၄။ အာသီသဆန္ဒ**

အကျွန်ုပ်တို့၏ ရှေးရှေးဘဝ၊ ယခုဘဝ၊ ပြုပြု သမျှ ဒါန၊ သီလ အစရှိသော ကုသိုလ်စေတနာတို့သည် အကျွန်ုပ်တို့ အလိုရှိအပ်သော မဂ်ဉာဏ်၊ ဖိုလ်ဉာဏ် အေးနိဗ္ဗာန်ကို ရရန်အကြောင်းကောင်းသော အထောက်အပံ့များ ဖြစ်ပါစေသတည်း. . .။

**၅။ အမိန္ဒာန်ပြုခြင်း**

အကျွန်ုပ်သည် သံသရာတစ်ခွင်တွင် ကျင်လည်ခဲ့ရ သမျှဘဝများစွာ၊ ခန္ဓာပျက်ကြွေ၊ သေခဲ့ရပေါင်းများလှပြီ။ ယခုဘဝလည်း သေပွဲနှင့်ပင် ရင်ဆိုင်ရဦးမည်။

ငါသည် မုချသေရမည်၊ အချိန်ပိုင်းသာ လိုတော့သည်။ အသေမဦးခင် ဉာဏ်ဦးအောင် ကြိုးစားအားထုတ်ပါမည်ဘုရား. . .။

## ၆။ ကိုယ်ခန္ဓာကို စွန့်လွှတ်လှူဒါန်းခြင်း

အကျွန်ုပ်၏ ခန္ဓာကိုယ်ကို ယခုတရားအားထုတ်ဆဲ ခဏ၌ မြတ်စွာဘုရားအား စွန့်လွှတ်လှူဒါန်းပါ၏ ဘုရား. . . ။

အကျွန်ုပ်၏ ခန္ဓာကိုယ်ကို တရားအားထုတ်ဆဲခဏ၌ သံသရာဝဋ်မှ လွတ်မြောက်ရာလွတ်မြောက်ကြောင်း ဝိပဿနာတရားတော်တို့ကို ဟောကြားပေးတော်မူသော မိုးကုတ်ဆရာတော်ဘုရားကြီးအား စွန့်လွှတ်လှူဒါန်းပါ၏ ဘုရား. . . ။

## ၇။ ကမ္မဋ္ဌာန်းတောင်းပုံ

ကမ္မဋ္ဌာနံ မေ ဘန္တေ ဒေထ၊

သံသာရဝဋ္ဋဒုက္ခတော မောစနတ္ထာယ။

ဘန္တေ-အရှင်မြတ်တို့ဘုရား၊ မေ-တပည့်တော်အား၊ (တစ်ဦးထက်မက အများဖြစ်နေလျှင် "မေ (အမှာကံ)-တပည့်တော်တို့အား" ဟုဆို)။ သံသာရဝဋ္ဋဒုက္ခတော-သံသရာညွန့်ထဲ ဝဋ်ဆင်းရဲမှ၊ မောစနတ္ထာယ-လွတ်မြောက်ပါရခြင်း အကျိုးငှာ၊ ကမ္မဋ္ဌာနံ-မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်၊ နိဗ္ဗာန်ရလမ်း ကမ္မဋ္ဌာန်းကို၊ ဒေထ-ကရုဏာထား မေတ္တာပွား၍ ပေးသနားတော်မူပါကုန် ဘုရား။

**မှတ်ချက်။** ။ မိုးကုတ်ဆရာတော်ကြီး၏ ထေရုပ္ပတ္တိနှင့်ကျင့်စဉ်စာအုပ် စာမျက်နှာ ၉၆ နှင့် ၁၀၁တို့မှ (မူ)ကို ယူ၍ စီစဉ်ထားခြင်း ဖြစ်ပါသည်။

## တနေ့တာပြီးစီးသောအခါ

ထို့နောက် မိမိတို့ စရိုက်နဲ့လိုက်တဲ့ ကမ္မဋ္ဌာန်းကို ရွေးပြီး အားထုတ်နိုင်ပါသည်။ အားထုတ်ပြီးလျှင် ရတနာသုံးပါးအား ပူဇော်ခြင်း၊ သတ္တဝါများအား အမျှပေးဝေခြင်းများ ပြုသင့်ပါ၏။

"ငါဘုရားအား ပစ္စည်းပစ္စယတို့ဖြင့် ပူဇော်ကြရာတွင် မြေပြင်မှ အထက်ဗြဟ္မာ့ဘုံအထိ မြင့်မောက်အောင်ပုံ၍ လှူသော်လည်း အပြည့်အဝ ပူဇော်ကြရာ မရောက်သေး။

ဝိပဿနာတရား အားထုတ်ပြီးလျှင် တရားဖြင့် ပူဇော်မှ အပြည့်အဝ ပူဇော်ကြရာရောက်သည်"

ဤသို့ မြတ်စွာဘုရား ကိုယ်တော်မြတ်ကြီးက မိန့်ပါသည်။ ဤသို့ မိန့်တော်မူချက်အရ တစ်နေ့တာအားထုတ်ပြီးသောအခါ အောက်ပါအတိုင်း ရွတ်ဆို၍ ပူဇော်သင့်ကြပါ၏။

ထို့ပြင်မိမိတို့ ပြုစုအားထုတ်သမျှ ကုသိုလ်အဖို့ဘာဂကို "ယာ ယတ္ထ ဒေဝတာ အာသုံ၊ တာသံ ဒိက္ခိဏာမာဒိသေ" ဟူသော ဘုရားရှင်ကိုယ်တော်မြတ်ကြီး၏ ညွှန်ကြားချက်အရ ကိုယ်စောင့်နတ်၊ အိမ်စောင့်နတ်မှစ၍ အားလုံးသော ပုဂ္ဂိုလ်အပေါင်းတို့ အားလည်း အမျှပေးဝေ သင့်ကြပါ၏။

## ၈။ တရားဖြင့် ပူဇော်ခြင်း

ဣမာယ ဓမ္မာနုဓမ္မပဋိပတ္တိယာ ဗုဒ္ဓံ ပူဇေမိ။
ဣမာယ ဓမ္မာနုဓမ္မပဋိပတ္တိယာ ဓမ္မံ ပူဇေမိ။
ဣမာယ ဓမ္မာနုဓမ္မပဋိပတ္တိယာ သံဃံ ပူဇေမိ။

လောကုတ္တရာတရား ကိုးပါးအား ရဖို့ရန် အလျော်ဖြစ်သော

- ဤအကျင့်မြတ်ပဋိပတ်ဖြင့် မြတ်စွာဘုရားကို ပူဇော်ပါ၏ ဘုရား။
- တရားတော်မြတ်ကို ပူဇော်ပါ၏ ဘုရား။
- သံဃာတော်မြတ်ကို ပူဇော်ပါ၏ ဘုရား။

အကျွန်ုပ်တို့ ယနေ့ယခု ပြုစုအားထုတ်ရသော ဒါနကုသိုလ်၊ သီလကုသိုလ်၊ ဘာဝနာကုသိုလ် ဤကုသိုလ်တို့၏ အဖို့ဘာဂကို အမိအဘ၊ အဘိုး၊ အဘွား၊ ဆရာသမား အစထား၍ သုံးဆယ့်တစ်ဘုံသား သတ္တဝါအများတို့အား အမျှပေးဝေကုန်ပါ၏။ အမျှရ၍ ချမ်းသာကြသည် ဖြစ်ပါစေကုန်သတည်း။

အမျှ. . . အမျှ. . . အမျှ. . .
ယူတော်မူကြပါကုန်လော့။
(သာဓု-သာဓု-သာဓု)

× × ×

**နာမရူပပရိစ္ဆေဒဉာဏ်**

၁။ မျက်စိ + အဆင်း = မြင်စိတ်၊

၂။ နား + အသံ = ကြားစိတ်၊

၃။ နှာခေါင်း + အနံ့ = နံ့စိတ် မွှေးစိတ်၊

၄။ လျှာ + အရသာ = စားစိတ်၊

၅။ ကိုယ် + တွေ့ထိစရာ = ယားယံကောင်းစိတ်၊ (တွေ့ထိစိတ်)

၆။ စိတ် + ကြံတွေးစရာ = တွေးတောကြံစည်စိတ်

ဟူ၍ ပဋိစ္စသမုပ္ပါဒ် ဒေသနာတော်အရ သိရသည်။ ထိုဒေသနာတော်အရ "မြင်စိတ်" တစ်ခုဖြစ်ပေါ်ရာ၌-

(က) မျက်စိအကြည်သည် ရုပ်လား၊ နာမ်လား (ရုပ်ပါ)၊

(ခ) အဆင်းရော ရုပ်လား၊ နာမ်လား (ရုပ်ပါ)၊

(ဂ) မြင်စိတ်ရော ရုပ်လား၊ နာမ်လား (နာမ်ပါ)၊

ထို့အတူ ကြားစိတ်ပေါ်ရာ၌လည်း-

(က) နားအကြည်သည် ရုပ်လား၊ နာမ်လား (ရုပ်ပါ)၊

(ခ) အသံရော ရုပ်လား၊ နာမ်လား (ရုပ်ပါ)၊

(ဂ) ကြားစိတ်ရော ရုပ်လား၊ နာမ်လား (နာမ်ပါ)၊

ထို့အတူ နံ့စိတ်၊ မွှေးစိတ်၊ စားစိတ်၊ တွေ့ထိစိတ်၊ တွေးတော ကြံစည်စိတ်တို့ဖြစ်ပေါ်ရာ၌လည်း တစ်ခုချင်း စိစစ်ပါ။

ဤသို့လျှင် "ဤသည်ကား ရုပ်" "ဤသည်ကား နာမ်" ဟူ၍ ကွဲကွဲပြားပြား ခွဲခြား၍ သိသောဉာဏ်သည် "နာမရူပ ပရိစ္ဆေဒဉာဏ်"မည်၏။ ထိုအခါ "နာမရူပ ပရိစ္ဆေဒဉာဏ်" ရပြီ။

**ပစ္စယပရိဂ္ဂဟဉာဏ်**

ဖော်ပြခဲ့ပြီး ဒေသနာတော်အရ "မြင်စိတ်" တစ်ခုဖြစ်ပေါ်ရာ၌-

(က) ရုပ် ၂ ခုက အကြောင်း၊

(ခ) မြင်စိတ်က အကျိုး။

"အကြောင်းကြောင့် အကျိုးဖြစ်ရ" ဤသို့ နားလည်သောဉာဏ်ဖြစ်ပေါ်လာလျှင် ပဋိစ္စသမုပ္ပါဒ်ကို နားလည်ပြီ။

ထို့အပြင် "ဒီအကျိုးတရားတွေဟာ ဒီအကြောင်းတရားတွေကြောင့်ဖြစ်ရတာ"ဟူ၍ သိလျှင် အကြောင်းတရားကို သိမ်းပိုက်နိုင်ပြီ၊ အကြောင်းတရားကို ဤသို့သိမ်းပိုက်နိုင်လျှင် "ပစ္စယပရိဂ္ဂဟဉာဏ်" ရပြီ။

တစ်နည်း-အဘယ်၍ စကြံ့ကြွရင်း တရားနှလုံးသွင်းပါက

(က) "လှမ်းချင်စိတ်"ဖြစ်တာက နာမ်၊ တစ်လှမ်းချင်း တစ်လှမ်းချင်း ကြွကြွနေတာရုပ်။ အလားတူ "ရပ်ချင်စိတ်" ဖြစ်တာကနာမ်၊ ရပ်တန့်သွားတာကရုပ်။ "ထိုင်ချင်စိတ်"ကနာမ်၊ ထိုင်ချလိုက်တာ

က ရုပ်။ "လှဲချင်စိတ်"က နာမ်၊ လှဲချင်တာက ရုပ်။ ဤကဲ့သို့ ခွဲခြားသိနေလျှင် "နာမရူပ ပရိစ္ဆေဒဉာဏ်"ကို ရပြီ။

(ခ) သွားချင်စိတ်ကအကြောင်း၊ ကြွ-ကြွလှမ်းနေတာက အကျိုး၊ "အကြောင်းကြောင့် အကျိုးဖြစ်နေရ" ဤသို့သိလျှင် ပဋိစ္စ သမုပ္ပါဒ်ကို နားလည်ပြီ။

ထို့အပြင် "အကျိုးတရားတွေဟာ အကြောင်းတရားတွေ ကြောင့်ဖြစ်ရတာ" ဟူ၍ သိလျှင် အကြောင်းတရားကို သိမ်းပိုက် နိုင်ပြီ။ "ပစ္စယ ပရိဂ္ဂဟဉာဏ်" ရပြီ။

**သာသနာတော်၌ ထောက်တည်ရာရပြီ**

ဤကဲ့သို့ (က) နာမရူပ ပရိစ္ဆေဒဉာဏ်နှင့် (ခ) ပစ္စယ ပရိဂ္ဂယဉာဏ် (၂)မျိုးကိုရလျှင်ပင် ဤပုဂ္ဂိုလ် "စူဠသောတာပန်" ဟူ၍ ဆိုလို့ရပြီ။ တစ်ဘဝ၊ နှစ်ဘဝ အပါယ်မကျနိုင်တော့ပြီ။

ဣမိနာ ပန ဉာဏေန သမန္နာဂတော
ဝိပဿကော ဗုဒ္ဓသာသနေ လဒ္ဓဿာသော
လဒ္ဓပတိဋ္ဌော နိယတဂတိကော
"စူဠသောတာပန္နော" နာမ ဟောတိ၊

(ဝိသုဒ္ဓိမဂ်၊ ဒု-၂၄၀)

ဣမိနာ ပန ဉာဏေန-ဤဉာဏ်(၂)ပါးနှင့်၊ သမန္နာဂတော-ပြည့်စုံသော၊ ဝိပဿကော-ဝိပဿနာရှုသော ယောဂီပုဂ္ဂိုလ်သည်၊

ဗုဒ္ဓသာသနေ-မြတ်စွာဘုရားသာသနာတော်၌၊ လဒ္ဓသာသော-ရအပ်သော သက်သာရာရှိသည်၊လဒ္ဓပတိဋ္ဌာတော-ရအပ်သော ထောက်တည်ရာရှိသည်၊ နိယတဂတိကော-မြဲသော ကောင်းရာသုဂတိရှိသည်၊ (ဟုတွာ-ဖြစ်၍) စူဠသောတာပန္နော နာမ-စူဠသောတာပန်မည်သည်၊ ဟောတိ-ဖြစ်တော့၏။

## စိတ္တာနုပဿနာအခန်း

### အပြင်ဩ့သည် ၅ ယောက်

"မြင်စိတ်၊ ကြားစိတ်၊ နံစိတ်၊ စားစိတ်၊ ယားယံကောင်းစိတ်၊ ယားယံမကောင်းစိတ်" ဆိုတဲ့ ၅-မျိုးတို့သည် အမြဲတမ်းပေါ်ပေါက်နေကြသည် မဟုတ်၊ တစ်ခါတစ်ရံမှ (အာရုံ+ ဒွါရဆုံကြမှ) အကြောင်းတိုက်ဆိုင်မှ ပေါ်ပေါက်လာသောစိတ်များဖြစ်ကြသည်။

ထို့ကြောင့် တစ်ခါတစ်ရံမှ အလယ်အပတ်လာတတ်ကြသော ဩ့သည်များနှင့်တူကြ၏။ သို့ဖြစ်၍ "ဩ့သည်စိတ်များ" ဟု ခေါ်ကြသည်။

ထို့ပြင်လည်း ယင်းစိတ် (၅)မျိုးတို့သည် ဝမ်းထဲမှာ ပေါ်ကြသည်မဟုတ်၊ မျက်စိ၊ နား၊ နှာခေါင်း၊ လျှာ၊ ကိုယ်ဆိုတဲ့ အပြင်ဘက်မှာ ပေါ်ကြသောစိတ်များဖြစ်ကြ၏။ ထို့ကြောင့် ထို(၂)မျိုး

ကို ပေါင်းစပ်၍ ဗျူပွတ်နှင့်ကိုက်အောင် သူတို့ကို "အပြင်ညှော့်သည် (၅)ယောက်" ဟု ခေါ်ကြသည်။

**အတွင်းညှော့်သည် (၆)ယောက်**

လောဘစိတ်၊ ဒေါသစိတ်၊ မောဟစိတ်၊ အလောဘစိတ်၊ အဒေါသစိတ်၊ တွေးတောကြံစည်စိတ်၊ ဤစိတ် (၆)မျိုးတို့သည် လည်း အမြဲတမ်းပေါ်ပေါက်နေကြသည် မဟုတ်ချေ။ သူတို့လည်း တစ်ခါကစ်ရံမှ (အာရုံ+ဒွါရဆုံကြမှ၊ အကြောင်းတိုက်ဆိုင်မှ) ပေါ်ပေါက်လာတတ်ကြ၏။ ထို့ကြောင့် "ညှော့်သည်စိတ်များ"ဟု ပင် ခေါ်ကြရသည်။

သို့သော် ဤစိတ် ၆ မျိုးတို့ကား ဝမ်းထဲ ဟဒယဝတ္ထုရုပ် ပေါ်မှာ ပေါ်ကြသောကြောင့် "အတွင်းမှာပေါ်သောစိတ်များ" ဖြစ်ကြ၏။ ထို့ကြောင့် သူတို့ကို "အတွင်းညှော့်သည် ၆ ယောက်"ဟု ခေါ်ကြသည်။

**အိမ်သည်စိတ်နှစ်ယောက်**

(က) လေကို ဝင်အောင်လုပ်သောစိတ်နှင့် (ခ)လေကို ထွက်အောင်လုပ်သောစိတ်၊ ဤစိတ်(၂)မျိုးတို့သည်ကား အမြဲ တမ်းလို တမျှဉ်းမျှဉ်းရှုနေ၊ ရှိုက်နေကြ၏။ အိမ်မှာအမြဲနေတဲ့သူနဲ့ တူကြသည်။ ထို့ကြောင့် သူတို့ကို အိမ်သည်နှစ်ယောက်ဟု ခေါ် ကြသည်။

## ရှုပုံရှုနည်းဘယ်လိုလဲ

အိမ်သည်စိတ် ၂ ခုကို အရင်းခံထား၍ မည်သည့်စိတ်ပေါ်ပေါ်၊ ပေါ်တိုင်း ပေါ်တိုင်း မလွတ်အောင် ဖြစ်-ပျက် ရှုရမည်။

| | |
|---|---|
| အပြင်ဧည့်သည် | ငါးယောက်၊ |
| အတွင်းဧည့်သည် | ခြောက်ယောက်၊ |
| အိမ်သည်က | နှစ်ယောက်၊ |
| ရှုစရာ | တစ်ဆယ့်သုံးယောက် |

ရှုစရာစိတ် (၁၃)မျိုးဖြစ်၏။ ဘယ်စိတ်ပေါ်ပေါ် နောက်က ဉာဏ်နဲ့လိုက်ပါ။ ဧည့်သည်စိတ်များ မပေါ်လျှင် အိမ်သည်စိတ်ကို ပြန်၍ ဖြစ်-ပျက် ရှုနေပါ။

### ဝေဒနာနုပဿနာအခန်း

၁။ မျက်စိမှာ - ဥပေက္ခာဝေဒနာ၊

၂။ နားမှာ - ဥပေက္ခာဝေဒနာ၊

၃။ နှာခေါင်းမှာ - ဥပေက္ခာဝေဒနာ၊

၄။ လျှာမှာ - ဥပေက္ခာဝေဒနာ၊

၅။ ကိုယ်မှာ - (က) ရုံခါ သုခဝေဒနာ၊
(ခ) ရုံခါ ဒုက္ခဝေဒနာ၊

၆။ စိတ်မှာ - (က) ရုံခါ သောမနဿဝေဒနာ၊
(ခ) ရုံခါ ဒေါမနဿဝေဒနာ၊
(ဂ) ရုံခါ ဥပေက္ခာဝေဒနာ၊

ဤသို့လျှင် ပေါ်ရာဌာနကို အစွဲပြု၍ ဝေဒနာ(၉)မျိုးရှိ၏။ သို့သော် သဘောတူရာကို ပေါင်းစုလိုက်လျှင် (၃)မျိုးသာဖြစ်သွားသည်။

မျက်စိ၊ နား၊ နှာခေါင်း၊ လျှာတို့မှာ ဖြစ်တဲ့ ဥပေက္ခာဝေဒနာနှင့် စိတ်ထဲမှာပေါ်တဲ့ ဥပေက္ခာဝေဒနာတို့ကိုပေါင်း၍ "ဥပေက္ခာဝေဒနာ" ဟု တစ်ပုံပြုပြီးထား။

ကိုယ်မှာဖြစ်တဲ့ သုခဝေဒနာနှင့် စိတ်မှာဖြစ်တဲ့ သောမနဿ ဝေဒနာကိုပေါင်း၍ "သုခဝေဒနာ"ဟု တစ်ပုံပြုပြီး ထား။

ကိုယ်မှာဖြစ်တဲ့ ဒုက္ခဝေဒနာနှင့်စိတ်မှာဖြစ်တဲ့ ဒေါမနဿဝေဒနာကိုပေါင်း၍ "ဒုက္ခဝေဒနာ"ဟု တစ်ပုံပြုပြီးထား။ ဤသို့လျှင် သဘောတူရာတို့ကိုပေါင်း၍ ပေါင်းစုလိုက်ခဲ့သော်-

(က) သုခဝေဒနာ၊
(ခ) ဒုက္ခဝေဒနာ၊
(ဂ) ဥပေက္ခာဝေဒနာ ဟု ၃ မျိုးသာဖြစ်သွား၏။

**ဧည့်သည်နှင့်အိမ်သည်များ**

မျက်စိ၊ နား၊ နှာခေါင်း၊ လျှာ၊ ကိုယ်တို့၌ ပေါ်သောဝေဒနာတို့သည် အပြင်မှာ ပေါ်ကြသောကြောင့် "အပြင်ဧည့်သည် ၆ ဦး" ဖြစ်ကြ၏။

စိတ်မှာပေါ်သော ဝေဒနာ (၃)မျိုးတို့ကား အတွင်းမှာပေါ်ကြသောကြောင့် "အတွင်းဧည့်သည် (၃)ဦး"ဖြစ်ကြသည်။

(က) အရပ်ရပ်အဆင်ပြေလျှင် ဝင်လေထွက်လေကို ပျော်ရွှင်စွာ သောမနဿဝေဒနာနှင့် ရှုရှိုက်နေသည်။

(ခ) အရပ်ရပ်အဆင်မပြေလျှင် ဝင်လေထွက်လေကို ဒေါမနဿ ဝေဒနာနှင့် ရှုရှိုက်နေသည်။

(ဂ) ကြားအလယ်အလတ် အခြေအနေဆိုလျှင် ဝင်လေ ထွက်လေကို ဥပေက္ခာဝေဒနာနှင့် ရှုရှိုက်နေသည်။

ဤ(၃)မျိုးကား အမြဲတမ်းလို တမျဉ်းမျဉ်း ရှုရှိုက်နေသော ကြောင့် "အိမ်သည် (၃)ဦး"ဟု ခေါ်ဆိုရ၏။

ဤသို့လျှင် အပြင်ဧည့်သည် (၆)ဦး၊ အတွင်းဧည့်သည် (၃)ဦး၊ အိမ်သည်(၃)ဦး၊ပေါင်း (၁၂)ဦးဖြစ်သည်။

**ဝေဒနာကို ဘယ်လိုရှုရမလဲ**

ဝေဒနာ ၃ မျိုး လှည့်ပတ်ပေါ်နေမည်။ ဝေဒနာမပေါ် သည့်အခါဟူ၍ မရှိ၊ ဝေဒနာဟူသည် ပေါ်လည်းပေါ်သည်။ ပျက် လည်းပျက်သည်။ ရှုသည့်အခါ ဝေဒနာခွာ၍ အပျက်မြင်အောင် ကြည့်၊ ဝေဒနာနှင့် ငါ မရောစေနှင့်။ ဝေဒနာကို မတွေ့ဘဲ အနိစ္စ ကိုတွေ့မှ လမ်းမှန်ကျမည်။

**မှတ်ချက်။** ။လိုရင်းအချုပ်မှာ ဝေဒနာကိုရှုလျှင် ဝေဒနာ မတွေ့ရဘဲ ဝေဒနာရဲ့အပျက်ကို တွေ့ပါစေ။ စိတ်ကိုရှုလျှင်လည်း

စိတ်ကိုမတွေ့ရဘဲ စိတ်ရဲ့အပျက်ကို တွေ့ပါစေ၊ ရုပ်ကိုရှုသည့် အခါ တွင်လည်း ရုပ်ကိုမတွေ့ရဘဲ ရုပ်ရဲ့ အပျက်ကိုတွေ့ပါစေ။

**ကာယာနုပဿနာအခန်း**

၁။ မျက်စိ + အဆင်း = မြင်စိတ်ပေါ်၊

ဤအချိန်မှာ ခန္ဓာငါးပါးပေါ်ခြင်းဖြစ်ပါသည်။ စိစစ် ကြည့်ကြစို့။ မျက်စိနှင့်အဆင်းက ရူပက္ခန္ဓာ။ မြင်စိတ်က ဝိညာဏက္ခန္ဓာ၊ ဓါတ် ၃ မျိုးဆုံ၍ ဖဿဖြစ်တာက သင်္ခါရက္ခန္ဓာ၊ ခံစားမှု ဝေဒနာ တစ်မျိုးမျိုးဖြစ်တာက ဝေဒနာက္ခန္ဓာ၊ ရှေးတုန်းက မှတ်သားခဲ့ဖူးတဲ့ အတိုင်း ဘယ်သူပဲ၊ ဘယ်ဝါပဲ၊ ဘာပဲ၊ ညာပဲ မှတ်သားမှုပေါ်တာ က သညာက္ခန္ဓာ၊ ဤသို့လျှင် ခန္ဓာငါးပါးစုံအောင် ပေါ်နေပြီ။

ယခုပေါ်သောခန္ဓာသည် ယခုမှပေါ်သည်ဖြစ်၍ ပစ္စုပ္ပန် ခန္ဓာဖြစ်ပါ၏။ ယခုမှတွေ့ရသော အဆင်း၊ ယခုမှပေါ်ခိုက်ဖြစ် သော မျက်စိအကြည်သည် ရူပက္ခန္ဓာ၊ ယခုမှပေါ်လာသော ဝိညာဏက္ခန္ဓာ၊ ယခုမှပေါ်လာသော သင်္ခါရက္ခန္ဓာ၊ ယခုမှပေါ်လာ သော ဝေဒနာက္ခန္ဓာ၊ ယခုမှပေါ်လာသော သညာက္ခန္ဓာတို့ဖြစ် ကြ၍ “ပစ္စုပ္ပန်ခန္ဓာ”ဟု ဆိုရပါသည်။

ဤခန္ဓာငါးပါးသည် ကြာရှည်စွာ တည်တံ့နေသည် မဟုတ်ပါ။ (အာရဂ္ဂေရိက သာသပေါ်)ဆိုသလို စူးဖျားထိပ်ပေါ်မှာ တင်လိုက်သော မုန်ညင်းစေ့သည် ကြာရှည်စွာမတည်တံ့ဘဲ

ချက်ချင်းလိမ့်ကျသွားသကဲ့သို့ ထို့အတူ ပေါ်လာပြီးနောက် ချက်ချင်းပျောက်သွားပါသည်။

ပျောက်သွားဖို့ရာ ပေါ်ရပါဦးမည်။ ထို့ကြောင့် ပေါ်၍လည်းလာသည်။ ပျောက်၍လည်းသွားသည်။ ပြောနေကျစကားလုံးဖြင့် ပြောရလျှင် ဖြစ်လည်းဖြစ်လာသည်။ ပျက်လည်းပျက်သွားသည်။ ဖြစ်သည်-ပျက်သည်၊ ဖြစ်-ပျက်။

**ခန္ဓာများစွာဖြစ်-ပျက်**

နောက်တစ်ကြိမ် မျက်စိနှင့်အဆင်းဆုံပြန်လျှင် မြင်စိတ်ပေါ်၊ ထိုအချိန်မှာ ခန္ဓာငါးပါးပေါ်ခြင်းဖြစ်၏။

နောက်ထပ်တစ်ကြိမ် မျက်စိနှင့်အဆင်းဆုံပြန်လျှင် လည်းမြင်စိတ်ပေါ်၊ ခန္ဓာငါးပါးပေါ်ခြင်း ဖြစ်၏။

ဤနည်းအတိုင်း မြင်ခန္ဓာပေါင်းများစွာ-မြင်ခန္ဓာပေါင်းများစွာဖြစ်ပေါ် ပျောက်ပျက်ပြီးမှ ဘယ်သူပဲ၊ ဘယ်ဝါပဲ ကွဲ ပြားစွာ သိရခြင်းဖြစ်ပါသည်တဲ့။

**ခန္ဓာများစွာဖြစ်-ပျက်**

ဤသို့ဖြစ်ပေါ်၊ ဖြစ်ပေါ်လာပြီးနောက် ပျောက်ပျက်သွားသည်ကို နောက်ကနေဉာဏ်ဖြင့်မြင်အောင် ကြည့်ရမည်။ ဤသို့ ဉာဏ်ဖြင့် ကြည့်သည်ကို "ဝိပဿနာရှုသည်"ဟု ဆိုရ၏။ ထို့အတူ-

၂။ နား+အသံ = ကြားစိတ်ပေါ်၊
ခန္ဓာငါးပါးပေါ်ခြင်းဖြစ်သည်။

၃။ နှာခေါင်း+အနံ့ = နံစိတ် မွှေးစိတ်ပေါ်၊

၄။ လျှာ + အရသာ = စားစိတ်ပေါ်၊

၅။ ကိုယ် + တွေ့ထိစရာ = တွေ့ထိစိတ်ပေါ်၊

၆။ မနော+ ကြံတွေးစရာ = တွေးတောစိတ်ပေါ်၊

ဤသို့ ပေါ်ကြရာ၌လည်း ခန္ဓာငါးပါးပေါ်ကြခြင်းဖြစ်၏။ ခန္ဓာပျောက်ကြခြင်းဖြစ်၏။

ဤခန္ဓာတို့ကား လုံးရပ်မရှိ သဏ္ဌာန်မရှိ ပုံဟန်မရှိ နိမိတ်မရှိ အလေးချိန်မရှိ ရိုးရိုးပကတိမျက်စိဖြင့် မမြင်ရ၊ ဉာဏ်ဖြင့်သာ မြင်ရသော ခန္ဓာဖြစ်သည်။ ဤခန္ဓာမျိုးကိုသာ ရှုရမည်ဖြစ်၏။

ယခုလက်ရှိ ခန္ဓာကြီးကား ချိန်တွယ်ကြည့်လျှင် ၄၀၊ ၄၅ ပိဿာ၊ ၅၀ ခန့် အလေးချိန်ရှိမှာပေါ့။ ယခုရှုရမည့် ပရမတ်ခန္ဓာက အလေးချိန်မရှိ။

ယခုလက်ရှိ ခန္ဓာကြီးက အသားဖြူတယ်၊ အသားမည်းတယ်။ အရပ်ပုတယ်၊ အရပ်ရှည်တယ်၊ ဝတယ်၊ ပိန်တယ် ပြောလို့ရတယ်။ ဝိပဿနာရှုရမည့် ပရမတ်ခန္ဓာကတော့ အသားဖြူတယ်၊ အသားမည်းတယ်၊ အရပ်ပုတယ်၊ အရပ်ရှည်တယ်၊ ဝတယ်၊ ပိန်တယ်၊ ပြောလို့မရဘူး။

ယခုလက်ရှိ ခန္ဓာကြီးက သေလျှင် သုသာန်ကို ထမ်းပြီး ပို့ရမယ်။ ဝိပဿနာရှုရမည့် ပရမတ်ခန္ဓာကတော့ သေလျှင် သုသာန်ကို ထမ်းပို့ရတယ်လို့ မရှိဘူး၊ ဖြစ်ပြီးပျက်တယ်ဆိုတာ သေတာပဲမဟုတ်လား။ သုသာန်ကို ထမ်းပို့ရတယ်လို့ မရှိဘူး။

အဲဒီပရမတ်ခန္ဓာတွေပေါ်ပြီး ပျောက်တာ၊ ပေါ်ပြီး ပျောက်တာကို ဉာဏ်ဖြင့်ကြည့်ရ၏။ ဤသို့ကြည့်သည်ကို "ဝိပဿနာရှုသည်" ဟု ဆိုရသည်။

**ဓမ္မာနုပဿနာ**

ဓမ္မာနုပဿနာဆိုသည်မှာ-ရုပ်ကိုပဲရှုရှု၊ ဝေဒနာကိုပဲရှုရှု၊ သညာကိုပဲရှုရှု၊ သင်္ခါရကိုပဲ ရှုရှု၊ ဝိညာဏ်ကိုပဲရှုရှု၊ အဖြစ် အပျက်တွေကိုချည်းပဲမြင်လာလျှင် ယင်းကို "ဓမ္မာနုပဿနာ"ဟု ခေါ်သည်။

အဖြစ်အပျက်ကို မမြင်ခင်တုန်းကသာ ရုပ်ကိုရှုလျှင် "ကာယာနုပဿနာ"၊ဝေဒနာကိုရလျှင် "ဝေဒနာနုပဿနာ"၊ သညာနှင့် သင်္ခါရနှစ်ခုပေါင်းကို ရှုလျှင်"ဓမ္မာနုပဿနာ"၊ စိတ်ကို ရှုလျှင် " စိတ္တာနုပဿနာ" ဟုခွဲခြားခဲ့၏။

သို့သော်လည်း ရုပ်ရဲ့အဖြစ်အပျက်ပဲ ဖြစ်ဖြစ်၊ ဝေဒနာရဲ့ အဖြစ်အပျက်ပဲ ဖြစ်ဖြစ်၊ဝိညာဏ်ဆိုတဲ့ စိတ်ရဲ့အဖြစ်အပျက်ပဲဖြစ်ဖြစ်၊ ဝိညာဏ်ဆိုတဲ့စိတ်ရဲ့ အဖြစ်အပျက်ပဲဖြစ်ဖြစ်၊ ဘယ်သူ့အဖြစ်

အပျက်ပဲဖြစ်ဖြစ်၊ အဖြစ်အပျက်တွေချည်း မြင်လာပြီဆိုလျှင် ယင်းတို့ကို သိမ်းကျုံးပြီး “ဓမ္မာနုပဿနာ”ဟုခေါ်သည်။ အားလုံး ဓမ္မာနုပဿနာသို့ ဦးခေါင်းဆိုက်ကြရ၏။ ဓမ္မာနုပဿနာရောက်မှပင် “ဝိပဿနာဖြစ်ပြီ”ဟု ဆိုနိုင်တော့သည်။

## ဥဒယဗ္ဗယဉာဏ်

ပဋိသမ္ဘိဒါမဂ်ပါဠိတော်တွင် ဉာဏ်စဉ် ၁၆ ပါးကို ဟောကြားတော်မူ၏။ ထိုထိုပါဠိတော်တွင် ဉာဏ်စဉ် ၁၀ ပါးကို ဟောကြားတော်မူ၏။ အနတ္တလက္ခဏာသုတ်တော်တွင် သစ္စဉာဏ်၊ ကိစ္စဉာဏ်၊ ကတဉာဏ်ဟူ၍ ဉာဏ်စဉ် ၃ ပါးကို ဟောကြားတော်မူ၏။ သုသိမပရိဗိုဇ်ကိုကျတော့ (ပုဗ္ဗေ ခေါ သုသိမ ဓမ္မဋ္ဌိတိဉာဏံ၊ ပစ္ဆာ နိဗ္ဗာနေ ဉာဏံ)ဟူ၍ ဉာဏ်စဉ် ၂ ပါးဖြင့် ဟောကြားပြသတော်မူသည်။

ဤကဲ့သို့ ဉာဏ်စဉ်တွေ များစွာရှိသော်လည်း ကျေးဇူးတော်ရှင် မိုးကုတ်ဆရာတော်ဆရာကြီးကမူ (ဥဒယဗ္ဗယဉာဏ်၊ နိဗ္ဗိန္ဒဉာဏ်၊ မဂ်ဉာဏ်)ဟူ၍ ၃ ပါးသာပြတော်မူ၏။ ရှိသမျှဉာဏ်တွေကို ထုတ်ဖော်ဟောကြားနေလျှင် ယောဂီများ ဉာဏ်တွေ ရှုပ်ထွေးကုန်မည်စိုး၍ဟု ဆိုသည်။

ရုပ်ကို ရှုရှု၊ နာမ်ကို ရှုရှု၊ ကိုယ့်စရိုက်နဲ့လိုက်ရာကို ရွေး၍ ရှုနိုင်သည်ဟု မိုးကုတ်ဆရာတော်ဘုရားကြီးက မိန့်တော်မူပါ၏။

ရုပ်ကို ရှုသည့်အခါ ရုပ်ကိုမတွေ့ရတော့ဘဲ ရုပ်ရဲ့အဖြစ် အပျက်ကို တွေ့နေလျှင် ဥဒယဗ္ဗယဉာဏ်ရပြီ။ နာမ်ကိုရှုလျှင်လည်း နာမ်ကိုမတွေ့ရတော့ဘဲ နာမ်တရားရဲ့အဖြစ်အပျက်ကို တွေ့နေလျှင် ဥဒယဗ္ဗယဉာဏ်ရပြီ၊ ဤဉာဏ်သည် ဝိပဿနာ၏ အခြေခံ ပင်ဖြစ်၏။ အကျိုးကြီးမားလှသည်။

[ဥဒယဗ္ဗယ (ဥဒယ+ဝယ) = အဖြစ်နှင့်အပျက်။]

## နိဗ္ဗိန္ဒဉာဏ်

ရုပ်နာမ်တို့၏ အဖြစ်အပျက်တွေကိုချည်း တွေ့ဖန်များလာလျှင် ရုပ်နာမ်တို့အပေါ်မှာ တွယ်တာမှုနည်းပါးလာမည်။ ရှေးတုန်းကတော့ ဖြစ်ကြပျက်ကြသည်ဟု မသိခဲ့၍ တွယ်တာခဲ့၏။ ယခုအခါ ဖြစ်တတ်ပျက်တတ်ကြသည်ဟု သိလာ၍ ရုပ်နာမ်တို့အပေါ်မှာ တွယ်တာမှု ကင်းကွာလာကြတော့သည်။

ဤသို့ဖြစ်လာသည်ကို "ငြီးငွေ့သည်"ဟု ဆိုရ၏။ "နိဗ္ဗိန္ဒဉာဏ်" ဖြစ်ပေါ်လာသည်ဟု ဆိုရသည်။ ဤဉာဏ်အဆင့်သို့ ရောက်လာလျှင် တစ်ဝက်ခရီးရောက်လာပြီဟု ဆိုထိုက်တော့၏။ ရူပသ္မိံပိ နိဗ္ဗိန္ဒတိ၊ ဝေဒနာယပိ နိဗ္ဗိန္ဒတိ။ သညာ ယပိ နိဗ္ဗိန္ဒတိ။ သင်္ခါရေသုပိ နိဗ္ဗိန္ဒတိ။ ဝိညာဏသ္မိံပိ နိဗ္ဗိန္ဒတိ။

ရူပသ္မိံပိ-ရုပ်အပေါ်၌လည်း၊ နိဗ္ဗိန္ဒတိ-ငြီးငွေ့လာ၏။ ဝေဒနာယပိ-ဝေဒနာအပေါ်၌လည်း၊ နိဗ္ဗိန္ဒတိ-ငြီးငွေ့လာ၏။

သညာယပိ-သညာအပေါ်၌လည်း၊ နိဗ္ဗိန္ဒတိ-ငြီးငွေ့လာ၏။ သင်္ခါရေသုပိ-သင်္ခါရတရားတို့အပေါ်၌လည်း၊ နိဗ္ဗိန္ဒတိ-ငြီးငွေ့လာ၏။ ဝိညာဏသ္မိံပိ-ဝိညာဏဆိုတဲ့ စိတ်အပေါ်၌လည်း၊ နိဗ္ဗိန္ဒတိ-ငြီးငွေ့လာ၏။

## "နိဗ္ဗိန္ဒတိ=ငြီးငွေ့" ဆိုတာ (၂) မျိုး

ဤနေရာတွင် ငြီးငွေ့ခြင်း ၂ မျိုးကို သိထားသင့်၏။ မိုးကုတ်ဆရာတော်ဘုရားကြီး၏ ဟောပြောချက်မှ ကောက်နုတ်ဖော်ပြပါမည်။

၁။ သံဝေဂဉာဏ်ဖြင့် ငြီးငွေ့ခြင်းတစ်မျိုး။

၂။ ဝိပဿနာဉာဏ်ဖြင့် ငြီးငွေ့ခြင်းတစ်မျိုးတို့ ဖြစ်ကြ၏။

ထိုတွင် ဤခန္ဓာကိုယ်ကြီးမှာ ဟိုနားကနာ၊ ဒီနားကအောင့်၊ ဟိုနားကကိုက်၊ ဒီနားကခဲ၊ ဟိုနားကကျင်၊ ဒီနားကထုံစသဖြင့် မသက်သာလှဘူး၊ အခံခက်လှပါပြီ၊ ငြီးငွေ့လှပါပြီဟု ဆိုတဲ့အဖြစ်မျိုးက သံဝေဂဉာဏ်ဖြင့် ငြီးငွေ့ခြင်းသာဖြစ်၏။ မဂ်ရဖို့နှင့် မဆိုင်သေး။

ဆိုခဲ့ပြီးသော အခြေအနေကား ထိတ်လန့်တဲ့ဉာဏ်၊ သံဝေဂဉာဏ်မျှသာ ရှိသေး၏။ ဒါလောက်နှင့် မရသေး ဤအဖြစ်မျိုးကား တိရစ္ဆာန်များပင် သိသေး၏။ တိရစ္ဆာန်တို့ကို

ရိုက်လျှင်၊ခဲဖြင့်ပေါက်လျှင်၊ အော်ဟစ်ပြီး ထွက်ပြေးတတ်၏။ ရွံမုန်း၏၊ ငြီးငွေ့၏။ဒါမျိုးကို မဆိုလို။

ရူပက္ခန္ဓာရဲ့ အဖြစ်အပျက်၊ ဝေဒနာက္ခန္ဓာ၊ သညာက္ခန္ဓာ၊ သင်္ခါရက္ခန္ဓာ၊ ဝိညာဏက္ခန္ဓာတို့ရဲ့ အဖြစ်အပျက်၊ အဲဒီလို အဖြစ်ပျက်တွေချည်း မြင်နေပြီး ငြီးငွေ့ခြင်းမျိုးကိုမှ ဝိပဿနာဖြင့် ငြီးငွေ့ခြင်း၊ ဝိပဿနာနိဗ္ဗိန္ဒဉာဏ် ဟုခေါ်သည်။ မဂ်အစစ်ရဖို့ ဖြစ်၏။

သုခဝေဒနာတွေ ပေါ်လာပြီး ပျောက်ကုန်ကြ၏။ "သုခ ဝေဒနာတွေမို့ မပျောက်ပါနဲ့လို့ တောင်းပန်၍မရ။ ဒုက္ခဝေဒနာတွေ လည်း ပေါ်လာပြီး ပျောက်ကုန်ကြပြန်၏။ "ဒုက္ခဝေဒနာတွေမို့ မပေါ်လာကြပါနဲ့"လို့ တား၍မရ။

သူ့သဘာဝအတိုင်း ပေါ်ချိန်ပေါ်၊ ပျောက်ချိန် ပျောက် ကုန်ကြ၏။ ကိုယ့်အလိုအတိုင်း မဖြစ်ကြ။ ဒါတွေကို မုန်းလာမှ ဝိပဿနာဉာဏ်၊ ဖြစ်ပျက်အနတ္တကို မုန်းလာမှ နိဗ္ဗိန္ဒဝိပဿနာ ဉာဏ်ပဲ၊ ဝိပဿနာဉာဏ်နဲ့ ငြီးငွေ့လာမှ အဖိုးတန်၍ မဂ်ဉာဏ် အစစ်ရနိုင်မည်။

## "ငြီးငွေ့တယ်ဆိုတာ ဘယ်လိုဟာလဲ"

မိုး (၃၀) နှာ ၂၁၇ မှ ၂၁၉ အထိ

ခန္ဓာငါးပါးအပေါ်မှာ ဉာဏ်နဲ့စိုက်ကြည့်နေလျှင် သူက အမှန်အတိုင်း ပြောလာပါလိမ့်မယ်၊ ဘာတွေပြောမလဲဆိုယင်

အနိစ္စလို့ပြောလာမယ်၊ ဒုက္ခလို့ပြောလာမယ်၊ အနတ္တလို့ ပြောလာမယ်၊ အသုဘလို့ပြောလာမယ်၊ ဒီလေးချက်ပြောလာမယ်။

ထပ်-ထပ်ပြီးစိုက်ကြည့်နေလဲ ဒီလေးချက်ပဲထပ်ပြီး သူပြောနေမှာပဲ၊ ဘယ်အချိန်ကြည့်ကြည့် ခန္ဓာက အနိစ္စ၊ ဒုက္ခ၊ အနတ္တ၊ အသုဘဒီလေးချက်ကိုပဲ ထပ်ပြန်တလဲလဲပြောနေမှာပဲ။

ပြောဖန်များလာတဲ့အခါ "နားခါးလှပါပြီ၊ မကြားချင်တော့ဘူး၊ မပြောပါနဲ့တော့လို့" ဆိုရလောက်အောင် ဖြစ်လာမယ်။ ဒါဟာ ငြီးငွေ့လာတာပဲ၊ နိဗ္ဗိန္ဒဉာဏ်တက်လာတာပဲ။

ဘာလို့လဲဆိုတော့ အနိစ္စ၊ ဒုက္ခ၊ အနတ္တ၊ အသုဘဆိုတာတွေဟာ အသေတွေချည်းပဲ။ တစ်ခုမှ မကောင်းကြဘူး၊ အဲဒါကြောင့် မကြည့်ချင်တော့တာ၊ အပျက်တွေချည်း သိရဖန်များလို့ မရှုချင်တော့သလို ဖြစ်လာတာ၊ ဒါဟာငြီးငွေ့လာတာပဲ။

## မဂ်ဉာဏ်–ဖိုလ်ဉာဏ်

အဲဒီလို ငြီးငွေ့ပြီး နိဗ္ဗိန္ဒဉာဏ်တွေ တက်လာလဲ ဆက်သာကြည့်နေ၊ ရပ်တန့်မနေနဲ့။ အနိစ္စ၊ ဒုက္ခ၊ အနတ္တ၊ အသုဘဆိုတဲ့ ဒီအမသေတွေကိုချည်း မြင်နေရတော့ ဒီအသေတွေကို မလိုချင်တော့ဘူး ဆိုတာဖြစ်လာမယ်။ ဒါဟာ ပြောင်းလွဲလာတာပဲ။

ဘာတွေပြောင်းလွဲလာသလဲဆိုယင် ဉာဏ်တွေပြောင်းလွဲလာတယ်။ "မလိုချင်ပါဘူး"ဆိုတဲ့ အဖြစ်မျိုးသို့ ပြောင်းလွဲလာတယ်၊ အဲဒီ"မလိုချင်ပါဘူး"ဆိုတာ ဝိရာဂပေါ့။ ဝိရာဂဆိုတာ မဂ်ပဲ။

အဲဒီ မလိုချင်တဲ့ဉာဏ်တွေ ပြောင်းလာတော့ အခုတွင်က ဉာဏ်နဲ့တွေ့နေရတဲ့ အနိစ္စ၊ ဒုက္ခ၊ အနတ္တ၊ အသုဘတွေအားလုံး ပျောက်ထွက်ကုန်သွားကြမယ်။

အဲဒါလို ပျောက်ထွက်ကုန်သွားကြယင် သူတို့နေရာမှာ နိစ္စ၊ သုခ၊ အနတ္တ၊ သုဘဆိုတာတွေ အစားထိုးဝင်လာကြမယ်၊ ဒါဟာနိဗ္ဗာန်ကို မဂ်ဉာဏ်ဖြင့်မြင်ခြင်းပဲပေါ့။ မဂ်ပြီးလျှင် ဖိုလ်ဉာဏ်ပါ ဆက်လက်ပြီး ကပ်လျက်ပါလာမည်။

## လောကီမှ လောကုတ္တရာသို့

ဤသည်ကား လောကီမဂ္ဂင်ငါးပါးဖြင့် ဖြစ်ပျက်တွေကို မြင်နေရာမှ တဖြည်းဖြည်းဉာဏ်အားတွေ ကောင်းလာမည်၊ ဖြစ်ပျက်တွေကို ဖြိုင်ဖြိုင်မြင်လာမည်။

ထိုသို့ဖြိုင်ဖြိုင်မြင်သော လောကီမဂ္ဂင်ငါးပါးထဲသို့ လောကုတ္တရာ အဓိသီလမဂ္ဂင် ၃ ပါးပါ နောက်ပိုင်းတွင် တိုးလာမည်။ ထိုအခါ လောကုတ္တရာမဂ္ဂင်(၈)ပါး ဖြစ်လာ၍ အလွန့်အလွန် ဉာဏ်အားတွေ ကောင်းလာမည်။

ဉာဏ်အားတွေကောင်းသလောက် ဖြစ်ပျက်တွေကို လွန်မြောက်၍ အဖြစ်အပျက်မရှိသော နိဗ္ဗာန်ဓာတ်သို့ရောက်အောင် ဆက်လက်၍ ဖောက်ပေလိမ့်မည်တည်း။

ဤသို့လျှင် ဆရာတော်ဘုရားကြီးက ကျမ်းဂန်နှင့်ညှိ၍ မိန့်တော်မူထားခြင်း ဖြစ်လေသည်။

## နိဗ္ဗာန်ကိုမြင်တယ်ဆိုတာ ဘယ်လိုလဲ

မိလိန္ဒမင်းကြီးဆိုတာ တစ်ဘက်သားနှင့် စကားပြောလျှင် ပျော်ပျော်ရွှင်ရွှင်ပြောတတ်သည်။ အမေးအစမ်းလည်းထူ၏။ မေးတဲ့အခါမှာလည်း ခက်ရာခက်ဆစ်-ကတ်ကတ်သတ်သတ်မေး တတ်သည်။ ရဟန္တာမထေရ်အရှင် နာဂသိန်ကလည်း မေးတိုင်း မေးတိုင်း စိတ်ရှည်ရှည်နှင့် ဖြေပေးတော်မူ၏။ တစ်ခါဟာတော့ တွေ့ကြရော။ အဲဒီတွင် မိလိန္ဒမင်းကြီးက မေးတာပဲ။

**မေး။** ။အရှင်ဘုရား. . . အရှင်ဘုရားတို့ကတော့ ရဟန်းကိစ္စ ပြီးပြီးသားမို့လို့ ဝန်လေးမှာမဟုတ်ပါဘူး၊ တရားရတဲ့သူတွေ "နိဗ္ဗာန်ကို မြင်တယ်ဆိုတာ ဘယ်လိုဟာပါလဲ" အဲဒါလေး တစ် ဆိတ်လောက် မိန့်တော်မူပါဘုရား။

**ဖြေ။** ။တံ တသ္မ စိတ္တံ အပရာပရံ မနသိကရောတော
ဥပ္ပါဒံ အတိက္ကမိတွာ အနုပ္ပါဒံ ဩက္ကမတိ၊
ဧဝံ ခေါ မဟာရာဇ သမ္မာပဋိပန္နော နိဗ္ဗာနံ
သစ္ဆိကရောတီတိ။

အဂ္ဂရာပရံ-တပြောင်းပြန်ပြန်၊ (ဝါ) အဖန်ဖန်အထပ်ထပ်၊ ခနသိကရောတော-အရှုခံတရားအပေါ် နှလုံးသွင်းသော၊ တဿ-ထိုယောဂီပုဂ္ဂိုလ်၏။ တံစိတ္တံ-ထိုစိတ်သည်၊ (ဝါ) ထိုစိတ်နှင့်ယှဉ်သောဉာဏ်သည်၊ ဥပ္ပါဒံ-အဖြစ်ကို၊ (ဝါ) အဖြစ်အပျက်ကို၊ အတိက္ကမိတွာ-ကျော်လွန်၍၊ အနုပ္ပါဒံ-အဖြစ်အပျက်မရှိရာ နယ်ထဲသို့ ဩက္ကမတိ-ဉာဏ်က သက်ဝင်သွားတော့၏။

(* မိလိန္ဒပဉှာ - ၃၀၁။)

မဟာရာဇ-မင်းကြီး၊ ဧဝံ-ခေါ-ဤသို့လျှင်၊ သမ္မာပဋိပန္နော-ကောင်းစွာကျင့်သောသူသည်၊ (ဝါ) အဖြစ်အပျက်ကို မြင်နေရာမှ အဖြစ်အပျက်ကိုကျော်လွန်၍ အဖြစ်အပျက်မရှိရာနယ်ထဲသို့ ဉာဏ်သက်ဝင်သွားအောင် ကျင့်တဲ့သူသည်၊ နိဗ္ဗာနံ သစ္ဆိကရောတီတိ-နိဗ္ဗာန်ကို မျက်မှောက်ပြုသည်မည်၏။

ဤသို့ ဖြေတော်မူသည်၊ ဆိုလိုရင်းမှာ အစပထမတွင် အရှုခံတရားအပေါ်မှာ ရှုဉာဏ်(၅)ပါး (လောကီမဂ္ဂင်များ)ဖြင့် အဖြစ်အပျက်တွေကို မြင်နေရာမှ ကြာတော့မုန်းလာလိမ့်မည်။ ဆက်လက်ရှုတော့ (သမ္မာဝါစာ၊ သမ္မာကမ္မန္တ၊ သမ္မာအာဇီဝ)ဆိုတဲ့ သီလမဂ္ဂင် (၃)ပါးပါ တိုးလာပြီး ရှစ်ပါးပြည့်၍ လောကုတ္တရာမဂ္ဂင် ဖြစ်လာမည်။

လောကုတ္တရာမဂ္ဂင်ဖြစ်သည်နှင့် ဉာဏ်အားကောင်းလာပြီး အဖြစ်အပျက်ကိုတောင် မမြင်တော့ဘဲ အဖြစ်အပျက်မရှိရာ နိဗ္ဗာန်ကို မြင်ပစ်လိုက်တော့သည်ဟူလို "နိဗ္ဗာန်ကို မြင်တယ်ဆိုတာဒါပဲ" ဟု ဖြေတော်မူသည်။

**သောတာပန်ဖြစ်ရန်အင်္ဂါ ၄ ပါး**

သောတာပန်ဖြစ်ချင်ရင် အင်္ဂါလေးချက်နှင့် ညီညွတ်အောင် နေထိုင်ရမည်။ ကျင့်သုံးရမယ်လို့ မြတ်စွာဘုရား ကိုယ်တော်တိုင် ဟောထားတာရှိသားပဲ၊ အင်္ဂုတ္တိုရ်ပါဠိတော် စတုက္ကနိပါတ်မှာပါတယ်။

စတ္တာရိမာနိ ဘိက္ခဝေ သောတာပတ္တိယင်္ဂါနိ

ကတမာနိ စတ္တာရိ (က) သပ္ပုရိသ သံသေဝေါ၊ (ခ) သဒ္ဓမ္မဿဝနံ၊ (ဂ) ယောနိသောမနသိကာရော၊ (ဃ) ဓမ္မာနုဓမ္မပဋိပတ္တိ၊

၁။ သပ္ပုရိသ သံသေဝေါ = သူတော်ကောင်းနှင့်ပေါင်း၊

၂။ သဒ္ဓမ္မဿဝနံ = သစ္စာတရားမျိုးကိုရွေး၍နာ၊

၃။ ယောနိသော မနသိကာရော = မှန်မှန်ကန်ကန်ကြံဆ၊ ဆင်ခြင်နှလုံးသွင်း၊

၄။ ဓမ္မာနုဓမ္မ ပဋိပတ္တိ = ရနိုင်လောက်အောင် ဖွဲ့သန်သန်ဖြင့် အားထုတ်၊

(ဆောင်)

သူတော်ဆည်းကပ်၊ မြတ်တရားနာ၊
လျော်စွာနှလုံး၊ ကျင့်သုံးဖွဲ့သန်၊
သောတာပန်၊ ဖြစ်ရန်အကြောင်းလေး။

**အထက်မဂ်တွေအတွက်လည်း ဤလေးပါးပင်**

သောတာပန်ဖြစ်ဖို့အတွက် အင်္ဂါ(၄)ချက်နှင့် ညီရမယ်လို့ သိခဲ့ရပြီးပြီ၊ သကဒါဂါမ်၊ အနာဂါမ်၊ ရဟန္တာဆိုတဲ့ အထက်အဆင့်တွေကိုရဖို့ သီးသန့်နောက်ထပ် အင်္ဂါရပ်တွေ ပြည့်စုံရဦးမည်လား- ဟု စဉ်းစားစရာဖြစ်၏။ ထို့ကြောင့် မြတ်စွာဘုရားက ဤသို့ ဟောတော်မူခြင်းဖြစ်သည်-

* စတ္တာရောမေ ဘိက္ခဝေ ဓမ္မာ ဘာဝိတာဗဟုလီကတာ
သောတာပတ္တိဖလ သစ္ဆိကိရိယာယ သံဝတ္တန္တိ၊
သကဒါဂါမိဖလ သစ္ဆိကိရိယာယ သံဝတ္တန္တိ၊
အနာဂါမိဖလ သစ္ဆိကိရိယာယ သံဝတ္တန္တိ၊
အရဟတ္တဖလ သစ္ဆိကိရိယာယ သံဝတ္တန္တိ၊
ကတမေ စတ္တာရော
- သပ္ပုရိသ သံသေဝေါ၊
- သဒ္ဓမ္မဿဝနံ၊

- ယောနိသော မနသိကာရော၊
- ဓမ္မာနုဓမ္မပဋိပတ္တိ။

(မဟာဝဂ္ဂသံယုတ်ပါဠိ - ၃၀၅)

အထက်အဆင့်တွေ အထက်မဂ်ဖိုလ်တွေ ရဖို့အတွက် သီးသန့်နောက်ထပ် အင်္ဂါရပ်တွေမရှိ၊ ဆိုခဲ့ပြီး အင်္ဂါလေးပါးနှင့် အညီ-

(၁) သူတော်ကောင်းနှင့် ပေါင်းသင်း၊
(၂) သစ္စာတရားမျိုးကို ရွေး၍နာကြား၊
(၃) နည်းမှန်လမ်းမှန်ကြံဆနှလုံးသွင်း၊
(၄) ရနိုင်လောက်အောင် ဖွဲ့သန်သန်ဖြင့် အားထုတ်။

ဤအင်္ဂါရပ်လေးပါးနှင့် ညီညွတ်ဖို့ပင် လိုသည်ဟု ဆို၏။ ညီညွတ်လျှင် အထက်မဂ်ဖိုလ်တွေကိုလည်း ရနိုင်သည်ဟု မိန့်မြွက်ထားပြီး အထက်မဂ်ဖိုလ်တွေရဖို့အတွက် သီးသန့်အင်္ဂါရပ်တွေ နောက်ထပ်မတိုး ဤအင်္ဂါရပ်များနှင့်ညီအောင် ကျင့်သုံးကြိုးစားပါ။ ဤတရားများကိုပင် ထပ်မံရှုပွားပါဟု ဆိုလိုသည်။

**ဉာတပရိညာသိစရာ**

ဤသည်တို့ကား ဝိပဿနာ တရားအားထုတ်မည့်သူတို့အတွက် ရှေးဦးစွာ သိသင့်သိထိုက်သော အခြေခံများဖြစ်ကြ၏။

ဤသို့သိစရာ ဟူသမျှကို ရှေးဦးစွာ ပိုင်ပိုင်နိုင်နိုင်သိအောင် လေ့လာသင်ကြားခြင်းကို "ဉာတပရိညာ"ဟု ခေါ်သည်။

လက်တွေ့လုပ်ငန်းခွင်သို့ဝင်၍ အလုပ်လုပ်အားထုတ်ခြင်းကိုကား "တီရဏပရိညာ"ဟု ခေါ်၏။ ထိုသို့ အလုပ်လုပ်သည့်အတွက် ဆိုင်ရာမဂ် ပယ်သတ်ကြခြင်းကို "ပဟာနပရိညာ" ဟု ခေါ်၏။

(၁) သိစရာဟူသမျှ၊ သိကုန်ကြ၊ ဉာတပရိညာ။
(၂) လက်တွေ့ဉာဏ်မြင်၊ လုပ်ငန်းဝင်၊ ခေါ်တွင်တီရဏ ပရိညာ။
(၃) ဆိုင်ရာမဂ်က၊ ပယ်သတ်ကြ၊ ပဟာနပရိညာ။

**နောက်ဆက်တွဲအထွေထွေမှတ်သားဖွယ်**
**၆၂ ပါးသော မိစ္ဆာဒိဋ္ဌိများ**

(က) ပုဗ္ဗန္တကပ္ပိက - သံသရာ၏ ရှေ့အစွန်းကို ကြံစည်ပြီးမှားသော မိစ္ဆာဒိဋ္ဌိ (၁၈)ပါး။
(ခ) အပရန္တကပ္ပိက - သံသရာ၏နောက်အစွန်းကို ကြံစည်ပြီးမှားသော မိစ္ဆာဒိဋ္ဌိ ၄၄ ပါး။

**ပုဗ္ဗန္တ ကပ္ပိက မိစ္ဆာဒိဋ္ဌိ ၁၈ ပါးဆိုတာ**

(၁) သဿတဒိဋ္ဌိ - ၄ ပါး
(၂) ဧကစ္စသဿတဒိဋ္ဌိ - ၄ ပါး

| | | | |
|---|---|---|---|
| (၃) | အန္တာနန္တိကဒိဋ္ဌိ | - | ၄ ပါး |
| (၄) | အမရာ ဝိက္ခေပဒိဋ္ဌိ | - | ၄ ပါး |
| (၅) | အဓိစ္စသမုပ္ပန္နဒိဋ္ဌိ | - | ၂ ပါး |
| | ပေါင်း | | ၁၈ ပါး |

**အပရန္တကပ္ပိက မိစ္ဆာဒိဋ္ဌိ ၄၄ ပါးဆိုတာ**

| | | |
|---|---|---|
| (၁) | သညီဝါဒဒိဋ္ဌိ. . . | ၁၆ ပါး |
| (၂) | အသညီဝါဒဒိဋ္ဌိ. . . | ၈ ပါး |
| (၃) | နေဝသညီနာသညီဝါဒဒိဋ္ဌိ | ၈ ပါး |
| (၄) | ဥစ္ဆေဒဝါဒဒိဋ္ဌိ. . . | ၇ ပါး |
| (၅) | ဒိဋ္ဌဓမ္မနိဗ္ဗာနဝါဒဒိဋ္ဌိ. . . | ၅ ပါး |
| | ပေါင်း | ၄၄ ပါး |

မိစ္ဆာဒိဋ္ဌိဝါဒအမျိုးအစား စုစုပေါင်း (၁၈+၄၄)=၆၂ ပါးရှိသည်။

ဤသို့ မိစ္ဆာဒိဋ္ဌိ ၆၂ ပါးရှိသော်လည်း အမေးအဖြေပြု၍ ပြောတတ်ကြသည်ကား-

(၁) သဿတဒိဋ္ဌိ၊ (၂) ဥစ္ဆေဒဒိဋ္ဌိ၊ (၃) ဧကစ္စသဿတဒိဋ္ဌိ၊ (၄) အမရာဝိက္ခေပဒိဋ္ဌိတို့ ဖြစ်ကြ၏။

ထပ်၍ ချုံးလျှင် (၁) သဿတဒိဋ္ဌိနှင့် (၂) ဥစ္ဆေဒဒိဋ္ဌိ အယူရှိသူများ ယခုခေတ်တွင် ပေါ်လွင်ကြ၏။ ထပ်၍ချုံးပြန်လျှင် (၁) သက္ကာယဒိဋ္ဌိတစ်မျိုးတည်း ဖြစ်တော့သည်။

နောက်ဆုံးဖြစ်သော ဒိဋ္ဌိ ၃ မျိုးသည် အရေးကြီး၏။ [ဤအကြောင်းအရာများ ဒီဃနိကာယ်၊ သီလက္ခန်ပါဠိတော်၊ ဗြဟ္မဇာလသုတ်တွင် ပါရှိသည်။]

## စိတ်နှင့်စေတသိက်များ

စိတ်သည် အမျိုးအစား အကျဉ်းအားဖြင့် ၈၉ ပါးရှိ၏။ အကျယ်အားဖြင့် ၁၂၁ ပါးရှိသည်။ သို့သော်လည်း သိတတ်သော သဘောအားဖြင့်ဆိုလျှင် တစ်မျိုးတည်းသာရှိ၏။ သိတတ်သော အုပ်စုဟူလို။

စိတ်နှင့်စေတသိက်တို့သည် ခွဲခြား၍မရ။ စိတ်ဖြစ်လျှင် ဆိုင်ရာစေတသိက်တို့လည်း ပါကြရသည်သာ။ ကုသိုလ်စိတ်ဖြစ်လျှင် ဆိုင်ရာကုသိုလ်စေတသိက်တွေ ပါကြရ၏။ အကုသိုလ်စိတ်ဖြစ်လျှင် ဆိုင်ရာအကုသိုလ် စေတသိက်တွေ ပါကြရသည်သာ။

## စေတသိက် ၅၂ ပါးဆိုတာ

### (က) သဗ္ဗစိတ္တသာဓာရဏစေတသိက် (၇)ပါး။

ဖဿ၊ ဝေဒနာ၊ သညာ၊ စေတနာ၊ ဧကဂ္ဂတာ၊ ဇီဝိတိန္ဒြိယ၊ မနသိကာရ။

### (ခ) ပကိဏ်းစေတသိက် (၉၆)ပါး။

ဝိတက္က၊ ဝိစာရ၊ အဓိမောက္ခ၊ ဝီရိယ၊ ပီတိ၊ ဆန္ဒ။

### (ဂ) အကုသိုလ်စေတသိက် (၁၄)ပါး။

မောဟ၊ အဟိရိက၊ အနောတ္တပ္ပ၊ ဥဒ္ဓစ္စ၊ လောဘ၊ ဒိဋ္ဌိ၊ မာန၊ ဒေါသ၊ ဣဿာ၊ မစ္ဆရိယ၊ ကုက္ကုစ္စ၊ ထိန၊ မိဒ္ဓ၊ ဝိစိကိစ္ဆာ။

### (ဃ) သောဘနစေတသိက် (၂၅) ပါး။

သဒ္ဓါ၊ သတိ၊ ဟိရီ၊ ဩတ္တပ္ပ၊ အလောဘ၊ အဒေါသ၊ တတြမဇ္ဈတ္တတာ၊ ကာယပဿဒ္ဓိ၊ စိတ္တပဿဒ္ဓိ၊ ကာယလဟုတာ၊ စိတ္တလဟုတာ၊ ကာယမုဒုတာ၊ စိတ္တမုဒုတာ၊ ကာယကမ္မညတာ၊ စိတ္တကမ္မညတာ၊ ကာယပါဂုညတာ၊ စိတ္တပါဂုညတာ၊ ကာယုဇုကတာ၊ စိတ္တုဇုကတာ။ ။သမ္မာဝါစာ၊ သမ္မာကမ္မန္တ၊ သမ္မာအာဇီဝ၊ ကရုဏာ၊ မုဒိတာ။ ။ပညိန္ဒြေ။

### သောတာပန်စိတ်ထားအင်္ဂါခုနစ်ပါး

**(ဆောင်)**

ဖြစ်ကြောတို၊ ငြိမ်းလိုစိတ်၊ ထွက်ရိပ်ကင်း၊ ချက်ချင်းကု၊ ပျက်မှုစိုး၊ တိုး၍စိုက်၊ လှိုက်လှိုက်ဖို၊ ကြည်ညိုခုနစ်တန် သောတာပန်။

၁။ **ဖြစ်ကြောတို။** ။သောတာပန်ပုဂ္ဂိုလ်သည် ဒိဋ္ဌိနှင့် ဝိစိကိစ္ဆာများကိုသာ ပယ်ရသေး၏။ မပယ်ရသေးသော ကိလေသာတွေ များစွာကျန်ရှိသေးသည်။

အဆင်မပြေသောအခါ မပယ်ရသေးသော လောဘ၊ ဒေါသစသော ကိလေသာများ ဖြစ်ကြသေး၏။ သို့သော် ကြာရှည်စွာ အဖြစ်မခံဘဲ နောက်ကနေ ဉာဏ်ဖြင့် သိမ်းဆည်းနိုင်သည်။ ထို့ကြောင့် ဖြစ်ကြောရှည်မနေတော့ဘဲ ဖြစ်ကြောတို၏။

ပုထုဇဉ်တို့ကား ဉာဏ်ဖြင့် မသိမ်းဆည်းနိုင်၍ ဖြစ်ကြောရှည် နေတတ်ကြသည်။

**ငြိမ်းလိုစိတ်။** ။"မပယ်ရသေးသော ကိလေသာများ ငြိမ်းအေးအောင် လုပ်မယ်"ဆိုတဲ့ စိတ်ဓါတ်များ အမြဲကိန်းအောင်းသည်။

ပုထုဇဉ်တို့ကား ထိုသို့စိတ်ထားမမွေး။

**ထွက်ရိပ်ကင်း။** ။ဤဘုရားသာသနာမှာသာ သံသရာမှ ထွက်ရပ်လမ်းရှိသည်။ အခြားသော တိတ္ထိတို့၏ သာသနာ၌ ထွက်ရပ်လမ်း အကျင့်ကောင်းမရှိဟူ၍ ယုံကြည်သည်။

ပုထုဇဉ်တို့ကား အခြားသော တိတ္ထိတို့၏ သာသနာ၌လည်း ထွက်ရပ်လမ်း ရှိလေဦးမည်လားဟု ယုံမှားသံသယဖြစ်တတ်ကြသည်။

၄။ **ချက်ချင်းကု။** ။အပြစ်သင့်လျှင် ချက်ချင်းကုစားသည်။ ရဟန်းဖြစ်ပါက ဒေသနာပြောရမည်ဆိုလျှင် ချက်ချင်းပင် ဒေသနာပြော၍ ကုစား။ ဝတ်ဆောက်တည်ရမည်ဖြစ်လျှင်လည်း ချက်ချင်းဆောက်တည်ကုသ၏။

လူပုဂ္ဂိုလ်များဖြစ်ပါက လွန်ကျူးမိတဲ့ အပြစ်အတွက် ချက်ချင်းတောင်းပန်တတ်၏။ သို့မဟုတ် ဖြစ်ပျက်ရှု၍ ပယ်ဖျက်တတ်၏။

၅။ **ပျက်မှုစိုး။** ။ကိုယ့်သီလပျက်မှာစိုးရိမ်သည်။ အရေးကိစ္စကြုံတိုင်း ကိုယ့်သီလကို အမြဲတမ်းစောင့်ငဲ့ကြည့်တတ်၏။ သားငယ်ရှိသော နွားမကြီးသဖွယ်ဖြစ်သည်ဟူ၏။

သားငယ်ရှိသော နွားမကြီးသည် မြက်ခင်းပြင်၌ အစာကို စားလိုက်၊ သားငယ်ကိုစောင်း၍ကြည့်လိုက် လုပ်သလို ဖြစ်သည်ဟူ၏။

ပုထုဇဉ်တို့ကား ထိုသို့မဟုတ်ချေ။ သီလပျက်မှာကို မငဲ့တတ်ကြပေ။

၆။ **တိုး၍စိုက်။** ။သစ္စာတရားတွေကို နာယူရပြီဆိုလျှင် တိုး၍တိုး၍ ပို၍ပို၍ ဂရုစိုက်ပြီး နာယူတတ်ကြသည်။

ပုထုဇဉ်တို့ကား ထိုသို့မဟုတ်ချေ၊ လေးလေးပင်ပင်မထား။ ပေါ့ပေါ့ဆဆပင် တရားနာတတ်ကြသည်။

၇။ **လှိုက်လှိုက်ဖိုကြည်ညို။** ။သောတာပန်တို့သည် သစ္စာတရားတွေကို နာရလျှင် လှိုက်လှိုက်ဖိုအောင် ကြည်ညိုတတ်ကြ၏။

ပုထုဇဉ်တို့ကား ထိုသို့မဟုတ်ချေ။ သစ္စာတရားတွေကို တန်ဖိုးမထားကြ။

ဧဝံ သတ္တင်္ဂသမန္နာဂတော ခေါ ဘိက္ခဝေ အရိယသာဝကော သောတာပတ္တိဖလသမန္နာဂတော ဟောတိ။

ဤသို့လျှင် အင်္ဂါ ၇ ပါးနှင့်ပြည့်စုံသောသူသည် သောတာပန်အစစ်ဖြစ်တော့၏။

(မူလပဏ္ဏာသ၊ ပါဠိ၊ ၄၀၁)

**မဂ်တု (၁၀)ပါး ဆိုတာ**

ဩဘာသော ပီတိ ပဿဒ္ဓိ၊
အဓိမောက္ခော စ ပဂ္ဂဟော။
သုခံ ဉာဏ မုပဋ္ဌာန၊
မုပေက္ခာ စ နိကန္တိစ။

(သင်္ဂြိုဟ်ပါဠိ)

၁။ ဩဘာသ။ ။အလင်းရောင်၊ တရားအားထုတ်၍ ဥဒယဗ္ဗယဉာဏ် (အဖြစ်၊ အပျက်ကိုမြင်တဲ့ဉာဏ်) အခန်းသို့ရောက်လျှင် စိတ်တွေကြည်လင်သဖြင့် ဉာဏ်တွေလည်း ကြည်လင်လာကြ၏။

ဉာဏ်တွေကြည်လင်သောကြောင့် ခန္ဓာကိုယ်မှ အလင်းရောင်များ ထွက်လာတတ်ကြသည်။ တစ်ချို့ "လင်း"ကနဲ "လက်"ကနဲ တစ်ချက်တစ်လေမျှသာ ဖြစ်သွားတတ်၏။ တစ်ချို့မှာတော့ ကြာရှည်များစွာ ဖြစ်ပေါ်နေတတ်ကြသည်။

ထိုအခါ ယောဂီပုဂ္ဂိုလ်က "ငါ့မှာ မဂ်ရပြီ"ဟု ထင်တတ်ကြ၏။ မဂ်အစစ်ကား မဟုတ်သေးချေ။ အလင်းရောင်က မဂ်လိုလိုလုပ်၍ ဝင်လာသည်။ သို့သော် ယောဂီပုဂ္ဂိုလ်ကမူ "တစ်မဂ်ရလျှင် တော်ပြီ" ဟု ဆိုကာ ရပ်ထားတတ်ကြ၏။ ဤသို့ရပ်ထားမိအောင် အလင်းရောင်က အနှောင့်အယှက်ပြုနေသလို ဖြစ်တော့သည်။

၂။ ပီတိ။ ။နှစ်သက်မွေ့လျော်နေမှု၊ အလွန့်အလွန်နှစ်သက်ဝမ်းမြောက်မှု ဖြစ်လာသောအခါ "ငါ့မှာတစ်မဂ်ရပြီ"ဟု ဆိုကာ ရပ်ထားမိတတ်ကြ၏။

၃။ **ပဿဒ္ဓိ**။ ။ကိုယ်ငြိမ်းအေး၊ စိတ်ငြိမ်းအေးဖြစ်မှု၊ ရှေးတုန်းက ဒါမျိုးမဖြစ်ဘူးခဲ့။ ယခုလို ငြိမ်းအေးနေသည်မှာ မဂ်ရလို့ဖြစ်ရမည်ဟု ဆိုကာ ရပ်၍ထားမိတတ်ကြ၏။

၄။ **အဓိမောက္ခ**။ ။ကမ္မဋ္ဌာန်းအာရုံ၌ စူးစိုက်စွာ သက်ဝင်ယုံကြည်သော သဒ္ဓါ၊ ဘုရား၊ တရား၊ သံဃာအပေါ်၌လည်း အလွန့်အလွန် သက်ဝင်ယုံကြည်လာမှု၊ ဧကန္တ မဂ်ရပြီဟုဆိုကာရပ်၍ ထားမိတတ်ကြသည်။

၅။ **ပဂ္ဂဟ**။ ။စိတ်ကိုချီမြှောက်တတ်သော လုံ့လ၊ ဝီရိယ၊ ရှေးတုန်းကဒါလောက် ဝီရိယမကောင်းခဲ့။ ယခုလုံ့လ ဝီရိယတွေ သန်နေသည်မှာ မဂ်ရနေလို့ဖြစ်ရမည်ဟု ဆိုကာ ရပ်၍ထားမိတတ်ကြသည်။

၆။ **သုခ**။ ။တစ်ကိုယ်လုံးထုံးမွှမ်း၍ ချမ်းမြစေသော သုခဝေဒနာ။ ရှေးတုန်းက ဒါမျိုးမဖြစ်ခဲ့။ ယခု ထူးထူးခြားခြား ချမ်းမြေ့နေသည်မှာ မဂ်ရနေလို့ဖြစ်ရမည်ဟုထင်ကာ ရပ်၍ ထားမိတတ်ကြ၏။

၇။ **ဉာဏ**။ ။ထက်မြက်လျင်မြန် အမြင်သန်နေသော ဝိပဿနာဉာဏ်၊ သင်္ခါရတရားတို့ကို ရှုလိုက်တိုင်း ရှုလိုက်တိုင်း အဖြစ်အပျက်တွေကို ကွက်ကွက်ကွင်းကွင်း ရှင်း

လင်းစွာ မြင်နေသောဉာဏ်၊ "ကေန္တ မဂ်ရလို့ ဉာဏ်ထက် မြက်နေတာပဲ"ဟုထင်ပြီး ဝိပဿနာကိုရပ်၍ ထားမိတတ် ကြသည်။

၈။ ဥပဋ္ဌာန။ ။ ကမ္မဋ္ဌာန်းအာရုံ၌ စွဲမြဲစွာ တည်သော သတိ။ ရှေးတုန်းက ဒါလောက်သတိမကောင်း။ ယခုမှ သတိတွေသိပ်ကောင်းနေသည်မှာ မဂ်ရလို့ဖြစ်ရမည်ဟု ဆိုကာ ရပ်၍ထားမိတတ်ကြ၏။

၉။ ဥပေက္ခာ။ ။မြင်မြင်သမျှ ဥပေက္ခာရှုနိုင်ခြင်း၊ သုခ ဝေဒနာပေါ်ပေါ်၊ ဒုက္ခဝေဒနာပေါ်ပေါ်၊ ပေါ်လာသမျှ တွေကို ဖြစ်ပျက်ရှု၍ ဥပေက္ခာပြုနိုင်ခြင်း၊ မဂ်ရနေလို့ ဤသို့ဥပေက္ခာပြုနိုင်သည်ဟုဆိုကာ ရပ်၍ ထားတတ် ကြ၏။

၁၀။ **နိကန္တိ။** ။ဝိပဿနာကို နှစ်သက်မှု နူးညံ့သိမ်မွေ့ သော တဏှာ။ အလွန်သိမ်မွေ့လှသောကြောင့် တဏှာ မှန်းပင် မသိသာချေ။

ဩဘာသမှစ၍ ရှေ့ဘက် ၉ မျိုးကို နှစ်သက်နေ မှု၊ လောဘတဏှာဖြစ်နေ၍ တရားမရနိုင်။

## မီး (၁၁)ပါးဆိုတာ

၁။ လောဘမီး၊ ၂။ ဒေါသမီး၊ ၃။ မောဟမီး၊ ၄။ ဇာတိမီး၊ ၅။ ဇရာမီး၊ ၆။ မရဏာမီး၊ ၇။ သောကမီး၊ ၉။ ဒုက္ခမီး၊ ၁၀။ ဒေါမနဿမီး၊ ၁၁။ ဥပါယာသမီးတို့ဖြစ်ကြသည်။

## ကိလေသာ (၁၀)ပါး

၁။ လောဘ = လိုချင်မက်မောခြင်း၊
၂။ ဒေါသ = အမျက်ထွက်ခြင်း၊
၃။ မောဟ = မသိမိုက်မှောင်ခြင်း၊
၄။ မာန = မာန်ထောင်လွှားခြင်း၊
၅။ ဒိဋ္ဌိ = အမြင်မှား အယူမှားခြင်း၊
၆။ ဝိစိကိစ္ဆာ = ယုံမှားသံသယရှိခြင်း၊
၇။ ထိနမိဒ္ဓ = ထိုင်းခြင်း၊ မှိုင်းခြင်း၊
၈။ ဥဒ္ဓစ္စ = စိတ်ပျံ့လွင့်ခြင်း၊
၉။ အဟိရိက = မကောင်းမှုပြုရမှာမရှက်ခြင်း၊
၁၀။ အနောတ္တပ္ပ = မကောင်းမှုပြုရမှာမကြောက်ခြင်း၊

"ဘုရားရှင်ဟောကြားအပ်သော ဒေသနာတော်ကို မှီငြမ်းပြု၍ ဟောကြားအပ်သော မိုးကုတ်တရား" ဆိုတာအင်္ဂါရပ်တွေရှိတယ်။ အင်္ဂါရပ်တွေနှင့်ညီညွတ်မှ "မိုးကုတ်ဝိပဿနာတရား" ဟူ၍ သတ်မှတ်နိုင်ပါသည်။ အင်္ဂါရပ်တို့ကား-

၁။ ပဋိစ္စသမုပ္ပါဒ်ကို အခြေခံရမည်၊
၂။ ရုပ်နာမ်ခွဲ၊ ပညတ် ပရမတ် ခွဲပါရမည်၊
၃။ ဒိဋ္ဌိဖြုတ်ပါရမည်၊ အသိဉာဏ်အားဖြင့် ပြုတ်အောင် ဖြုတ်ပေးရမည်။
၄။ ရှုခင်း ရှုကွက်၊ ရှုပုံ ရှုနည်းပါရမည်။
၅။ သစ္စာဆိုက်အောင် ဟောရမည်။

ဖော်ပြခဲ့ပြီး အင်္ဂါရပ်တို့မှ အနည်းဆုံး ၃ ပုံ ၂ ပုံ ပါစေရမည်။ အကုန်လုံးပါလျှင် အကောင်းဆုံးဖြစ်၏။ ဤအချက်တွေ မပါလျှင် "မိုးကုတ်တရား" မဟုတ်။

မှတ်ချက်။ ။ "မိုးကုတ်တရား"ဆိုတာက ဝတ္ထုဇာတ်လမ်း ဦးစားပေးမည် မဟုတ်ရ။ လုပ်ငန်းခွင် ဦးစားပေးသာ၊ ရှုခင်း-ရှုကွက် ဦးစားပေးသာဖြစ်ရ၏။

ထို့ပြင် အသံကို ရှေ့တန်းမတင်ရ၊ တရားသဘာဝကို နားလည်အောင် ရှင်းပြခြင်းမျိုးသာဖြစ်သည်။ ထိုမှတစ်ပါး လျှချင်အောင်၊ တန်းချင်အောင် နိမိတ်ပြ ပရိယာယ်ဆွယ်၍ ဟောသောတရားမျိုး မဟုတ်စေရ။

လျှတတ် တန်းတတ်အောင် ရည်ရွယ်ချက်မမှားအောင်၊ ဆုတောင်းမလွဲအောင် ပြုပြင်ပေးသော တရားမျိုးသာဖြစ်ရပါမည်။

အများအားဖြင့် တရားအားလုံးလိုလိုပင် အလုပ်ပေးတရား၊ လုပ်ငန်းခွင်ဝင်တရား၊ သစ္စာတရားများချည်းဖြစ်ကြရသည်။

**အသံရှည်ဆွဲပြီး တရားမဟောရ**

န ဘိက္ခဝေ အာယတကေန
ဂီတဿရေန ဓမ္မော ဂါယိတဗ္ဗော
ယော ဂါယေယျ အာပတ္တိ ဒုက္ကဋဿ။

(စူဠဝါပါဠိ-၂၄၃)

ရဟန်းတို့. . . ရှည်လျားသော ဂီတသံဖြင့် တရားမဟောရ။ ဟောလျှင် ဒုက္ကဋ်အာပတ်သင့်စေ။

**သင့်နိုင်တဲ့အပြစ်များ**

ပဉ္စိမေ ဘိက္ခဝေ အာဒီနဝါ အာယတကေန ဂီတဿယေန ဓမ္မံ ဂါယန္တဿ၊

(၁) အတ္တနာပိ တသ္မိံသရေ သာရဇ္ဇတိ၊
(၂) ပရေပိ တသ္မိံသရေ သာရဇ္ဇန္တိ၊
(၃) ဂဟပတိကာပိ ဥဇ္ဈာယန္တိ၊
(၄) သရကုတ္တိမ္ပိ နိကာမယမာနဿ သမာဓိဿ ဘင်္ဂေါ ဟောတိ၊
(၅) ပစ္ဆိမာ ဇနတာ ဒိဋ္ဌာနုဂတိံ အာပဇ္ဇတိ။

ရဟန်းတို့ . . . ရှည်လျားသော ဂီတသံဖြင့် တရားဟောသူမှာ ဤအပြစ်ငါးမျိုးဖြစ်နိုင်သည်။

(၁) ကိုယ်ကိုတိုင်လည်း ထိုအသံပေါ်မှာ စွဲလမ်းနှစ်သက်နေတတ်၏။

(၂) သူတစ်ပါးတို့ကလည်း ထိုအသံပေါ်၌ စွဲလမ်းနှစ်သက် လာနိုင်ကြကုန်၏။

(၃) အိမ်ရှင်ဒါယကာ ဒါယိကာမတို့ကလည်း ကဲ့ရဲ့ပြစ်တင် တတ်ကြကုန်၏။

(၄) အသံလုပ်နေသည်ကို နှစ်သက်မြတ်နိုးနေသူမှာ သမာဓိ ပျက်ပြားနိုင်၏။

(၅) နောင်လာနောက်သားတွေ အတုလိုက်၍ ယူနေတတ်၏။

**ဓမ္မကထိကသုတ်**
**(ခန္ဓဝဂ္ဂသံယုတ်ပါဠိ ၁၃၃)**

ရဟန်းတစ်ပါးက မြတ်စွာဘုရားထံသို့ ချဉ်းကပ်၍ လျှောက်ထားမေးမြန်းသည်။ "ကိတ္တာဝတာ နုခေါ ဘန္တေ ဓမ္မကထိကော ဟောတိ" ဟူ၍-

ထိုအခါ မြတ်စွာဘုရားက ဖြေတော်မူသည်။

"ရူပဿ စ ဘိက္ခု နိဗ္ဗိဒါယ ဝိရာဂါယ နိရောဓာယ ဓမ္မံ ဒေသေတိ "ဓမ္မကထိကော ဘိက္ခူ"တိ အလံဝစနာယ" ဝေဒနာယ၊ သညာယ. . . .။

**မေး။** အရှင်ဘုရား ဘယ်လိုပုဂ္ဂိုလ်မျိုးမှ "ဓမ္မကထိက"ခေါ်နိုင်ပါသလဲဘုရား။

**ဖြေ။** ရဟန်း- ရုပ်အပေါ်၊ ဝေဒနာအပေါ်၊ သညာအပေါ်၊ သင်္ခါရအပေါ်၊ ဝိညာဏ်အပေါ် (ဆိုလိုသည်ကား ခန္ဓာငါးပါး အပေါ်)မှာ ငြီးငွေ့လာအောင်၊ တပ်မက်မှုကင်းလာအောင်၊ ချုပ်ငြိမ်းဖို့အကျိုးငှာ ဖြစ်လာအောင် ဟောနိုင်တဲ့ပုဂ္ဂိုလ်မျိုးမှ "ဓမ္မကထိက" ခေါ်နိုင်သည်။

## ဓမ္မကထိကသုတ်
## (နိဒါနဝဂ္ဂသံယုတ်ပါဠိ–၂၅၈)

ရဟန်းတစ်ပါးက မြတ်စွာဘုရားထံသို့ ချဉ်းကပ်၍ လျှောက်ထားမေးမြန်းသည်။

**မေး။** အရှင်ဘုရား-ဘယ်လိုပုဂ္ဂိုလ်မျိုးမှ "ဓမ္မကထိက"ခေါ်နိုင်ပါသလဲဘုရား။

**ဖြေ။** ဇရာ မရဏဿ စ ဘိက္ခု နိဗ္ဗိဒါယ ဝိရာဂါယ နိရောဓာယ ဓမ္မံ ဒေသေတိ၊ "ဓမ္မကထိကော ဘိက္ခူ'တိ အလံ

ဝစနာယ။ ဇာတိယာ စေ ဘိက္ခု၊ ဘဝဿ၊ ဥပါဒါနဿ၊ တဏှာယ၊ ဝေဒနာ ယ၊ ဖဿဿ၊ သဠာယတနဿ၊ နာမရူပဿ၊ ဝိညာဏဿ၊ သင်္ခါရာနံ၊ အဝိဇ္ဇာယ။

ရဟန်း-ဇရာမရဏအပေါ်၊ ဇာတိအပေါ်၊ ဘဝအပေါ်၊ ဥပါဒါန်အပေါ်၊ တဏှာအပေါ်၊ ဝေဒနာအပေါ်၊ ဖဿအပေါ်၊ သဠာယတနအပေါ်၊ နာမ်ရုပ်အပေါ်၊ ဝိညာဏ်အပေါ်၊ သင်္ခါရတို့အပေါ်၊ အဝိဇ္ဇာအပေါ်၊ ငြီးငွေ့လာအောင် တပ်မက်မှုကင်းလာအောင်၊ ချုပ်ငြိမ်းဖို့အကျိုးငှာ ဖြစ်လာအောင် ဟောနိုင်တဲ့ ပုဂ္ဂိုလ်မျိုးမှ "ဓမ္မကထိက" ခေါ်နိုင်သည်။

**အင်္ဂုတ္တိုရ် စတုက္ကနိပါတ်**
**သောတာနုဂတသုတ်တော်လာ**

၁။ လက်ရှိခန္ဓာ၊ မတွယ်တာနှင့်၊ နောင်လာဘဝ၊ မတောင့်တဘဲ၊ ကြောင့်ကြဖွဲ့ဖြင့်၊ အမြဲမပြတ်၊ ဝိပဿနာ၊ လေ့လာကြိမ်ကြိမ်၊ အာစိဏ္ဏကံ၊ ဖြစ်ကြောင်းဖန်မူ၊ ထိုသည်သူကား၊ အယူမလွဲ၊ ဂတိမြဲ၏။

၂။ မီးစွဲလောင်မှု၊ ရေကိုတသော်၊ မရဖြစ်အင်၊ ပုံနှိုင်းယှဉ်၍၊ မဂ္ဂင်သန္ဓေ၊ တည်မြဲနေအောင်၊ မသေခင်က၊ ပြင်ဆင်တောက်လျှောက်၊ မေ့မပျောက်နှင့်၊ ချွေးပေါက်ယိုစီး၊ သေခါနီးဝယ်၊ အပြီး မုချ၊ မဂ်စစ်ရလိမ့်။

၃။ ကိစ္စမလျော်၊ အကြောင်းပေါ်၍၊ မတော်တဆ၊ မဂ်မရ အုံး၊ ဘ၀အစွန်၊ တမလွန်တွင်၊ ထူးချွန်အံ့လောက်၊ နတ်ပြည်ရောက်၍၊ မဖောက်မပြန်၊ သောတာပန်အစစ်၊ ဧကန်ဖြစ်သည်. . . မလစ်

## သံယောဇဉ် (၁၀)ပါး

## ဩရမ္ဘာဂိယသံယောဇဉ် ၅ ပါး

၁။ ဒိဋ္ဌိသံယောဇဉ်
၂။ သီလဗ္ဗတပရာမာသ
၃။ ဝိစိကိစ္ဆာ
} သောတာပတ္တိမဂ်ကပယ်

၄။ ကာမရာဂ
၅။ ပဋိဃသံယောဇဉ်
} အနာဂါမိမဂ်ကပယ်

## ဥဒ္ဓံဘာဂိယ သံယောဇဉ် ၅ ပါး

၆။ ရူပရာဂသံယောဇဉ်
၇။ အရူပရာဂ
၈။ မာန
၉။ ဥဒ္ဓစ္စ
၁၀။ အဝိဇ္ဇာသံယောဇဉ်
} အရဟတ္တမဂ်ကပယ်

## နှီးဆော်တိုက်တွန်းခြင်း

ဇဟေယျ သဗ္ဗသံယောဂံ၊
ကရေယျ သရဏတ္တနော။
စရေယျာ ဒိတ္တသီသောဝ၊
ပတ္ထယံ အစ္စုတံ ပဒံ။ ။

အစ္စုတံ-စုတေရွေ့လျောခြင်းမရှိသော၊ ပဒံ-နိဗ္ဗာန်ကို၊ ပတ္ထယံ (ပတ္ထယန္တော)-တောင့်တသောသူသည်၊ သဗ္ဗသံယောဂံ-အလုံးစုံသော သံယောဇဉ်ကို၊ ဇဟေယျ-ပယ်စွန့်ရာ၏။ အတ္တနော-မိမိ၏၊ သရဏံ- ကိုးစားအားထားရာ ဝိပဿနာအလုပ်ကို၊ ကရေယျ-ပြုရာ၏။ အာဒိတ္တသီသောဝ-ဦးခေါင်း ဦးသျှောင် မီးတောက်လောင်သောသူကဲ့သို့၊ စရေယျ-ကပျာကယာ အရေးတကြီး ကျင့်ကြံရာသတည်း။

(သံယုတ်ပါဠိ၊ ဒု၊ ခန္ဓဝဂ္ဂ - ၁၁၇)

ဤတွင် ဝိပဿနာဘူမိ ဝိပဿနာအခြေခံများ
ပြီးပြည့်စုံပါပြီ။

မမွဒါန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမျိုးသားလွှတ်တော်
ဥက္ကဋ္ဌ ဦးခင်အောင်မြင့် ဇနီး ဒေါ်ခင်ပြုံးနှင့် မိသားစု
ကောင်းမှု။

ဝိပဿနာ အခြေခံ
လုပ်ငန်းစဉ်များကို
စေ့စေ့ငင ကြည့်ရှုကြ၍
ကျကျနန လေ့လာကြပြီးလျှင်
အခြေခံကျကျ သိရှိနိုင်ကြ၍
သိသည့်အတိုင်း ကျင့်ကြံကြကာ
ကျင့်သည့်အတိုင်း ကိုယ်စီကိုယ်င
တရားထူး ရနိုင်ကြပါစေ။